ကျေးဇူးတော်ရှင်

# လယ်တီဆရာတော်ဘုရားကြီး

ပြု-စီရင်တော်မူသော

# ပရမတ္ထသံခိပ်ကျမ်း




လယ်တီရောင်ခြည် ကွန်ပျူတာစာပေ

**လယ်တီဒီပနီ ထွန်းကားပြန့်ပွားရေးအဖွဲ့**

မဟာလယ်တီတိုက်

မုံရွာမြို့

ကျေးဇူးတော်ရှင်

# လယ်တီဆရာတော်ဘုရားကြီး

ပြု–စီရင်တော်မူသော

# ပရမတ္ထသံခိပ်ကျမ်း




လယ်တီရောင်ခြည် ကွန်ပျူတာစာပေ

**လယ်တီဒီပနီ ထွန်းကားပြန့်ပွားရေးအဖွဲ့**

မဟာလယ်တီတိုက်

မုံရွာမြို့

<u>ပုံနှိပ်မှတ်တမ်း</u>

၂၀၀၄ ခု၊ မေလ

ပထမအကြိမ်

အုပ်ရေ-၁၀၀၀

ရန်ကုန်မြို့၊ ကမ္ဘာအေး၊ သာသနာရေးဝန်ကြီးဌာန၊ သာသနာရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဦးညွန့်မောင် (မှတ်ပုံတင်အမှတ် ၅၂၄/၀၂၄၀၅) က ထုတ်ဝေ၍ - သာသနာရေး ဦးစီးဌာနအတွက် ဦးဇော်ဝင်း (မှတ်ပုံတင် အမှတ် ၀၁၄၈၅) ဟံသာဝတီပိဋကတ်ပုံနှိပ်တိုက် ၃၅၉၊ မိုလ်အောင်ကျော်လမ်း၊ ရန်ကုန်မြို့ က ပုံနှိပ်သည်။

ပရမတ္ထသံခိပ်ကျမ်း

## လယ်တီဒီပနီထွန်းကားပြန့်ပွါးရေးအဖွဲ့
## အကြောင်းပြ နိဒါန်း

### နှလုံးသားမှ
### လယ်တီဒီပနီများသို့

လဋ္ဌိပေသလ သိက္ခာကာမ ပဋိပတ္တိ ဝိသာရဒ နိကာယဏ္ဏဝပါရဂူ ဖြစ်တော်မူသော ကျေးဇူးတော်ရှင် ပထမလယ်တီ ဆရာတော်ဘုရားကြီးသည် ဒီဃဒဿီ အရှည်မြင်တော်မူသည့်အတိုင်း သံသရာဝဋ်မှ မလွတ်ကြ သေးသူ ရှင်လူအများတို့၏ ကိုးစားရာအစစ် နိယျာနိက လမ်းကြောင်းပြဖြစ်သော ဒီပနီကျမ်းပေါင်း မြောက်မြား စွာတို့ကို ကရုဏာ စေတနာပြင်းပြစွာဖြင့် ရေးသား ပြုစု တော်မူခဲ့သည်။

ယင်းဒီပနီကျမ်းစာများအနက် အချို့ဒီပနီကျမ်း များကို မူလသီတင်းသုံးတော်မူရာ မုံရွာမြို့ မဟာလယ်တီ တိုက်ကြီးအတွင်း၌ ရေးသားတော်မူ၍ အချို့ကိုမူကား မြန်မာနိုင်ငံအရပ်ရပ်သို့ ကြွရောက်လေရာ မြို့ရွာ ဒေသ

အများအပြားတို့၌ အကြောင်းအားလျော်စွာ ရေးသားပြုစု တော်မူခဲ့ခြင်းဖြစ်သည်။

သို့ဖြစ်ရာ ယင်းလယ်တီဒီပနီများမှာ လယ်တီဆရာ တော်ဘုရားကြီး၏ ကရုဏာနှလုံးသားမှ ပေါက်ဖွား ထွက် ပေါ်လာသော ကျမ်းစာများပင် ဖြစ်သည်။

## လယ်တီဒီပနီများ၏ အန္တရာယ်

ကျေးဇူးတော်ရှင် လယ်တီဆရာတော်ဘုရားကြီး ပြန်လွန်တော်မူသည်မှာ ယခုအခါ နှစ်ပေါင်း ၇၈-နှစ် ဟူသည်မှာ အလွန်ကြာမြင့်လှသည့် အချိန်ကာလဟု မဆို နိုင်ပေ၊ သို့သော် ယင်း ၇၈-နှစ်တာမျှ အချိန်ကာလ အတွင်း မှာပင် လယ်တီဒီပနီများ၌ ကြောက်မက်ဖွယ်ရာ အန္တရာယ် များနှင့် ရင်ဆိုင်လာခဲ့ရသည်။

ယင်းအန္တရာယ်များမှာ လယ်တီကျောက်စာများနှင့် တိုက်ဆိုင်ကြည့်ရှုကြသောအခါ လယ်တီဒီပနီကျမ်းစာများ အတွင်း၌ မူလကျမ်းပြု ဆရာတော်ဘုရားကြီး၏ ဆိုလိုရင်း အာဘော်အဓိပ္ပါယ် ပျက်စီး၍ သွားလောက်အောင်-

(က) ချွတ်ချော် မှားယွင်းမှု၊
(ခ) စကားလုံးများ-ဝါကျများ-ကျ ကျန်ရစ်မှု၊
(ဂ) အချို့စကားလုံးများ-ဝါကျများ အပိုပါ ရှိနေမှု၊

စသည်တို့ကို တွေ့ရှိနေရခြင်းပင်ဖြစ်သည်။

## အန္တရာယ်ကို
## တားဆီးချုပ်ကိုင်ရေး

ယင်းအန္တရာယ်များ ဆက်လက်ပျံ့နှံ့ကြီးထွား မလာနိုင်စေရန် လယ်တီဒီပနီများကို လယ်တီကျောက်စာများနှင့် တိုက်ဆိုင်ကာ သုတ်သင် ပြင်ဆင်လျက် တားဆီး ချုပ်ကိုင်ရန်လည်း တစ်ဖက်မှ လိုအပ်လာပေသည်။

ထို့ကြောင့် 'လယ်တီဒီပနီ ထွန်းကားပြန့်ပွါးရေး အဖွဲ့ကြီး၏' ဥက္ကဋ္ဌအဖြစ် တာဝန်ယူလျက်ရှိသော မဟာလယ်တီ နဝမ ပဓာန နာယကဆရာတော် ဘဒ္ဒန္တကေလာသ (အဂ္ဂမဟာပဏ္ဍိတ)သည် 'မှားအစဉ်-ပြင်ခဏ' ဟူသော စကားအရ 'ချွတ်ချော်မှားယွင်းမှုများကို လယ်တီကျောက်စာများနှင့် တိုက်ဆိုင် သုတ်သင်ပြင်ဆင်ကာ ယင်းအန္တရာယ်ကို အချိန်မီချုပ်ကိုင်ပါမှသာ ဒီဃဒဿီ အရှည်မြင်မြော်တော်

မူခဲ့သော-

(က) ကျေးဇူးတော်ရှင် ဆရာတော် ဘုရားကြီး၏ ဦးတည်ချက်လည်း ပြည့်ဝ-

(ခ) ဖတ်ရှုလေ့လာသူများအနေဖြင့်လည်း တင်းပြည့် ကျပ်ပြည့် အကျိုးရ-

ရှိနိုင်ကြပေမည်-ဟု ကြံစည် စဉ်းစားမိခဲ့သည်။

## သမိုင်းပေးတာဝန်

ယင်းသို့ ကြံစည်စဉ်းစားမိသည့်အတိုင်း သမိုင်းက ပေးလာပြီဖြစ်သော တာဝန်ဝတ္တရားတို့ကို ထမ်းဆောင်နိုင်ရန် နဝမ ပဓာန နာယကဆရာတော် ဘဒ္ဒန္တကေလာသ (အဂ္ဂမဟာပဏ္ဍိတ)သည် လယ်တီဒီပနီ ထွန်းကားပြန့်ပွါးရေးအဖွဲ့ကို ဦးစီးနာယကပြုကာ တည်ထောင်ဖွဲ့စည်းခဲ့ပေသည်၊ မိမိ၏ သီတင်းသုံးရာ- ဗောဓိပက္ခိယကျောင်းတွင်လည်း လယ်တီရောင်ခြည် ကွန်ပျူတာစာပေ ပြုလုပ်တည်ထောင်လျက် လယ်တီဒီပနီများကို ဦးစီးကာ သုတ်သင်သန့်ရှင်းစွာ ကွန်ပျူတာတို့၌ ထည့်သွင်းခြင်း စီဒီခွေတ်ပြားတို့၌ ထည့်သွင်းခြင်း ရန်ကုန်မြို့ရှိ စာပေတိုက်များနှင့် ဆက်သွယ်ကာ ဒီပနီကျမ်းစာများကို ထုတ်ဝေဖြန့်ချိစေခဲ့

ခြင်းတို့ကို ပြုလုပ်စေခဲ့ပေသည်။

## ပရမတ္ထသံခိပ်ကျမ်းစာပေ ထုတ်ဝေခဲ့ခြင်း

ယခုအခါ မြန်မာနိုင်ငံတစ်ဝှမ်းလုံးတွင် ရှိကြသော စာပေသုတေသီတို့ လိုအင်ဆန္ဒအရ ပရမတ္ထသံခိပ်ကျမ်းကို- ဘဒ္ဒန္တကေလာသ (အဂ္ဂမဟာပဏ္ဍိတ) နဝမပဓာန နာယက ဆရာတော် ဦးစီးကာ တပည့်သံဃာတော်များက ကွန်ပျူတာ စီကုံးလျက် ဦးဗိုလ်မောင်-သာသနဓဇသီရိပဝရ ဓမ္မာစရိယ နှင့် ဦးမောင်မောင်ဦး-တို့ကို တည်းဖြတ်စေပြီး ရန်ကုန်မြို့ ဟံသာဝတီ စာပေတိုက်မှာ ဖြန့်ချိ ထုတ်ဝေလိုက်ရပေသ တည်း။

ဦးကေလာသ
နဝမပဓာန နာယကဆရာတော်
မဟာလယ်တီတိုက်
မုံရွာမြို့

---

## နိဒါန်း

လယ်တီဆရာတော်ဘုရားကြီးသည် များစွာသော သူတို့အား လွယ်လင့်တကူ သိသာတတ်မြောက်နိုင်ရန် ရေးသားတော်မူအပ်သော 'ပရမတ္ထသံခိပ်' ကျမ်းကို ကြိုးပမ်းအားထုတ်ကြကုန်သော ရဟန်း ရှင် လူ သူငယ်ယောကျ်ား-သူငယ်မိန်းမကလေးများတို့မှာ များစွာတတ်မြောက်-ကိုးပိုင်းလုံးပေါက်ရောက် ရမိ တတ်သိ ကြေပြွန်ကြပြီဖြစ်ရကား--ဤင်းပရမတ္ထသံခိပ်သံပေါက်လင်္ကာကျမ်းသည် တစတစ ထွန်းတက် ပွင့်လင်းလာခဲ့ပြီဖြစ်၍ ၎င်းကျမ်းကို လေ့ကျက်ရမိ တတ်သိ ကြေပြွန်ရန် မြော်လင့်သောသူတို့ လွန်စွာများပြားသဖြင့် ၎င်းကျမ်းကို လေ့လာ ကျက်လိုသူတို့ အလွယ်တကူ ပေါ့ပေါ့ပါးပါး လက်တွင်ကိုင်စွဲ အမြဲထက်ကြပ်ပါရှိနိုင်ရန်အရေးကို မြော်တွေးတော်မူ၍ သေချာစွာ သံပေါက်လင်္ကာတို့ကို ရေးသားကာ အဓိပ္ပါယ် မပါစေပဲ ဆောင်ပုဒ်နှင့် သံပေါက်သက်သက်ကို ခွဲခြား၍ 'ပရမတ္ထ

သံခိပ်လက်စွဲ’ ဟူသောအမည်နှင့် စာအုပ်ငယ်တစ်ခု ပြုလုပ်ရမည်ဟူသော ဆရာတော်ဘုရားကြီး၏ အမိန့်တော်မြတ်ကို နာခံရသည့်အတိုင်း သေချာ ကောင်းမွန်သော နည်းလမ်းဖြင့် ပြုပြင် ရှင်းလင်း၍ ဤ ‘ပရမတ္ထသံခိပ်လက်စွဲ’ စာအုပ်ကို ပုံရိုက်ပါသတည်း။

လယ်တီပဏ္ဍိတ

# ပရမတ္ထသံခိပ်ကျမ်း

နမော တဿ ဘဂဝတော အရဟတော
သမ္မာသမ္ဗုဒ္ဓဿ

## ၁–စိတ်ပိုင်း

### ပဏာမ နှင့် ပဋိညာဉ်

၁။ စောထွတ်ဘုန်းလျှံ၊ တရားမွန်၊ သံဃံ နမာမိ။
၂။ ပရမတ် သင်္ဂြိုဟ်၊ တတ်မြောက်လို၊ လူဗိုလ်
တောင်းပန်ဘိ။
၃။ သင်္ဂြိုဟ်ဉာဏ်လောက်၊ အမြန်ရောက်၊ သံ
ပေါက် ဆိုပိမ့်သိ။

### ပရမတ္ထတရား ၄-ပါး

၄။ စိတ်, စေတသိက်၊ ရုပ်, နိဗ်, လေးရပ်၊ ပရမတ်။
၅။ သိ, ပယ်, ဆိုက်, ပွား၊ လေးပါး ကိစ္စ၊ အပိုင်ရ၊
မုချ ပရမတ်။

### ဘူမိဘေဒအားဖြင့် ၄-ပါး

၆။ ကာမ, ရူပ၊ အရူပ၊ လောကဥတ္တရာ။

၇။ တဏှာ တြို၊ ပိုင်းခြားဘိ၊ ဘူမိ စတုဖြာ။

## အသောဘဏစိတ် -၃၀

၈။ အကုဆယ့်နှစ်၊ ဆယ့်ရှစ် အဟိတ်၊ သုံးဆယ် စိတ်၊ ယုတ်နိစ် အသောဘဏတည်း။

## အကုသိုလ်စိတ် -၁၂

- သဟဂုတံ=တကွဖြစ်သည်။ သမ္ပယုတ္တံ=ယှဉ်သည်။ ဝိပ္ပယုတ္တံ=မယှဉ်သည်။ အသင်္ခါရိကံ=တိုက်တွန်းမှု မရှိပဲ မိမိအလိုအလျောက် ဖြစ်နိုင်သည်။ သသင်္ခါရိကံ=တိုက်တွန်းမှုရှိမှ ဖြစ်နိုင်သည်။

၉။ သော, ဥ, နှစ်တန်၊ ဒိဋ္ဌိသံ, ဝိ, လေး၊ ပွားရေး အ, သ၊ စိတ် ရှစ်ဝ၊ အဋ္ဌ လောဘမူ။

၁၀။ ဒေါမနဿ၊ ပဋိဃ သံ၊ အ, သ, ရုံ၊ နှစ်တန် ဒေါသမူ။

၁၁။ ဥပေက္ခာ မှီ၊ ဝိစိ, ဥဒ္ဓစ်၊ သံပွားလစ်၊ နှစ်ခု မောဟမူ။

၁၂။ လော-ရှစ်, ဒေါ-နှစ်၊ မောလည်း နှစ်၊ ဆယ့်နှစ် အကု ဟူ။

၁၃။ သော-လေး, ဥ-ဆ၊ ဒေါ-နှစ်မျှ၊ ဒွါဒ အကုယှူ။

အကုသိုလ်စိတ် ပြီး၏။

----------

## အဟိတ်စိတ်- ၁၈

- သမ္ပဋိစ္ဆန=လက်ခံ သိမ်းပိုက်ခြင်း။ သန္တီရဏ=စိစစ်ခြင်း။ အာဝဇ္ဇန=ဆင်ခြင်ခြင်း။ ဟသိတုပ္ပါဒ=ပြုံးရယ်မှုကို ဖြစ်စေခြင်း။

၁၄။ စက်, သော, ဃာ, ဇိ၊ ကာ, ကိုမှီ၊ ငါးလီဝိညာဏ်မှတ်။

၁၅။ သံ, သန်, နှစ်ခု၊ လောင်းပြန်မှု၊ အကုဝိပါက် သတ်။

၁၆။ သံ, သန်, သန်ဟု၊ လောင်းပြန်မှု၊ ကုသလဝိပါက်အငှ်။

၁၇။ အာဝဇ္ဇန်း ဒွိ၊ ဟသိတုပ္ပါဒ်၊ ဤသုံးရပ်၊ မှတ်လေကြိယာ။

၁၈။ ကာယနှစ်လီ၊ ဒု, သု, မှီ၊ ကု တီ, ဟသိ သော။

၁၉။ အကြွင်းစုဒွသ်၊ ဥ, နှင့်ထပ်၊ ဌာရည် စိတ်မနော။

အဟိတ်စိတ် ပြီး၏။

အသောဘဏစိတ် ပြီး၏။

---------

## ကာမာဝစရသောဘဏစိတ်-၂၄

၂၀။ ကျဉ်းဗျည်းနဝစ်၊ ကျယ် နောကေ်[၁]၊ လှစ်ပိမ့်သောဘဏ။

---

၁။ ကေ်-ကို အစ်- ဟုဖတ်ပါ

၂၁။ သော, ဥ နှစ်တန်၊ ဉာဏ်သံ, ဝိ, လေး၊ ပွားရေး အ, သ၊ အဠ သုံးလီ၊ ကု, ဝိ, ကြီ၊ စ ဝီ, ကာမ သောဘဏ။

ကာမာဝစရသောဘဏစိတ် ပြီး၏။

----------

## ကာမစိတ်-၅၄

၂၂။ အကု ဒွါဒီ၊ ကု ရှစ်လီ၊ တေဝီ ဝိပါက်ရေး။

၂၃။ ဆယ့်တစ် ကြိယာ၊ ပေါင်းတုံက၊ ကာမ ငါးဆယ့် လေး။

၂၄။ ဥ . သုံးဆယ့်နှစ်၊ သော . ဆယ့်ရှစ်၊ ဒေါနှစ် . ဒု, သု, ဧး။

ကာမစိတ်ပြီး၏။

----------

## ရူပါဝစရစိတ်- ၁၅

ဝိတက်, ဝိစာရ, ပီတိ, ဝေဒနာ, ဧကဂ္ဂတာ။ (ဈာန်အင်္ဂါ ငါးပါး)

၂၅။ ဝိ, စာ, ပီ, ဝေ၊ နှစ်ပါးထွေ၊ ဧ လျှင် ငါးခုမှတ်။

၂၆။ စိုက်စိုက် စူးစူး၊ အထူး မြဲမြဲ၊ ရှုအားသန်၊ ဈာန်ဟု ခေါ်သတတ်။

၂၇။ ငါး,လေး,သုံး,နှစ်၊ တစ်ဖန်နှစ်၊ တွဲလစ် ဈာန်ငါးရပ်။

၂၈။ ပ, ဒု, တ, စ၊ ပဉ္စမ၊ ပွားထ ဈာန်ငါးရပ်။

၂၉။ ငါးဈာန်ယှဉ်မှု၊ ငါးခု သုံးလီ၊ ကု, ဝိ, ကြိ၊ ပွားပြီ စိတ်ဆယ့်ငါး။

၃၀။ သော . ဆယ့်နှစ်ဝ၊ ဥ . သုံးမျှ၊ ရူပ စိတ်ဆယ့်ငါး။

ရူပါဝစရစိတ် ပြီး၏။

---------

## အရူပါဝစရစိတ်- ၁၂

(၁) အာကာသာနဉ္စာယတနဈာန်=ကသိုဏ်း၏ ကွာရာ ကောင်းကင်ပညတ်လျှင် တည်ရာအာရုံရှိသော အာကာသာနဉ္စာယတနဈာန်လည်းကောင်း၊

(၂) ဝိညာဏဉ္စာယတနဈာန်=ပဌမအရူပဝိညာဏ်လျှင် တည်ရာအာရုံရှိသော ဝိညာဏဉ္စာယတနဈာန်လည်းကောင်း၊

(၃) အာကိဉ္စညာယတနဈာန်=ပဌမအရူပ ဝိညာဏ်၏ အနည်းငယ်မျှ အကြွင်းအကျန်မရှိသော နတ္ထိဘောပညတ်လျှင် တည်ရာအာရုံရှိသော အာကိဉ္စညာယတနဈာန်လည်းကောင်း၊

(၄) နေဝသညာနာသညာယတနဈာန်=တတိယအရူပဝိညာဏ်လျှင် တည်ရာအာရုံရှိသော နေဝသညာ နာသညာယတန ဈာန်လည်းကောင်း။

F.1.B

၃၁။ အာ, ဝိဉ်, အာ, နော စျာန်လေးထွေ၊ ဉ, ဇ, အင်္ဂါနှစ်။
၃၂။ လေးစျာန် ယှဉ်မှု၊ လေးခု သုံးလီ၊ ကု, ဝိ, ကြိ၊ ပွားပြီ စိတ်ဆယ့်နှစ်။
၃၃။ စိတ် အရူပ၊ ဒွါဒသ၊ ပဉ္စမ ဉပေက္ခာဖြစ်။

အရူပါဝစရစိတ် ပြီး၏။

----------

မဟဂ္ဂုတ်စိတ်- ၂၇

၃၄။ မဟဂ္ဂုတ်ဟူ၊ ရူ, အရူ၊ ပေါင်းမူ သတ်ဝီသ။
၃၅။ ကု, ဝိ, ကြိ, နော၊ သော-ဆယ့်နှစ်ပါး၊ ဉ-ဆယ့်ငါး၊ ပေါင်းငြား သတ်ဝီသ။

လောကီစိတ်- ၈၁

၃၆။ ကာ, ရူ, အရူ၊ လောကီဟူ၊ ပေါင်းမူ ရှစ်ဆယ့်တစ်။
၃၇။ ဆယ့်နှစ် အကု၊ ကု ဆယ့်ခွန်နှုန်း၊ သုံးဆယ့်နှစ် ဝိ၊ နှစ်ဆယ်ကြိ၊ ပေါင်းဘိ ရှစ်ဆယ့်တစ်။
၃၈။ ဉ-ဇော သတ္တ၊ သော-တိံသ၊ ဒေါ ဒွ, ဒု-သု ဇက်[၁]။

လောကီစိတ် ပြီး၏။

----------

၁။ ဇက်-ကို အစ်-ဟုဖတ်ပါ

## လောကုတ္တရာစိတ်-၈

- သမ္မာဒိဋ္ဌိ, သမ္မာသင်္ကပ္ပ, သမ္မာဝါစာ, သမ္မာကမ္မန္တ, သမ္မာအာဇီဝ, သမ္မာဝါယာမ, သမ္မာသတိ, သမ္မာသမာဓိ၊ ဤစေတသိက် ရှစ်ပါးအပေါင်းသည် မဂ်မည်၏။

(၁) သောတာပတ္တိမဂ္ဂေါ=နိဗ္ဗာန်သို့ တစ်ဖြောင့်တည်း သွားသော လမ်းစခန်းသို့ ရှေးဦးစွာ ဆိုက်ရောက်သော သောတာပတ္တိမဂ် လည်းကောင်း။

(၂) သကဒါဂါမိမဂ္ဂေါ=ကာမဘုံ၌ ပဋိသန္ဓေ တစ်ဖန်ပြန်ခွင့် ကျန်ရှိသေးသော သကဒါဂါမိမဂ်လည်းကောင်း။

(၃) အနာဂါမိမဂ္ဂေါ=ကာမဘုံ၌ ပဋိသန္ဓေတစ်ဖန်ပြန်ခွင့်မရှိသော အနာဂါမိမဂ်လည်းကောင်း။

(၄) အရဟတ္တမဂ္ဂေါ=ကိလေသာ ကင်းပြတ်သဖြင့် မြတ်သောအလှူကို ခံထိုက်သော အရဟတ္တမဂ် လည်းကောင်း။

၃၉။ လေးမဂ် ယှဉ်ရိုး၊ ကု လေးမျိုး၊ အကျိုး ဖိုလ်လည်းလေး။

## စိတ်ပေါင်း- ၈၉

၄၀။ ကီ-ရှစ်ဆယ့်တစ်၊ ကုတ်မူ ရှစ်၊ ပေါင်းလစ် ရှစ်

ဆယ့်ကိုး။

၄၁။ ဆယ့်နှစ် အကုု ကု ကောပိ၊ ဆတ္တိံသ ဝိ၊ နှစ်ဆယ် ကြိ၊ ပေါင်းဘိ ရှစ်ဆယ့်ကိုး။

## လောကုတ္တရာစိတ် အကျယ်

၄၂။ ရှစ် လောကုတ်စု၊ တစ်ခုခုဝယ်၊ ငါးချာန်ခြယ်၊ အကျယ် လေးဆယ်ပွား။

၄၃။ မဂ်စိတ် နှစ်ဆယ်၊ ဖိုလ် နှစ်ဆယ်၊ အကျယ် လောကုတ်ပွား။

၄၄။ သော သုံးဆယ့်နှစ်၊ ဥမ္မ ရှစ်၊ ပေါင်းလစ် လေး ဆယ်ထား။

## ကိ, ကုတ် ဈာန်စိတ်ပေါင်း- ၆၇

၄၅။ ဈာန် မဟဂ္ဂုတ်၊ ဈာန် လောကုတ်၊ သရုပ် ခြောက် ဆယ့်ခွန်။

၄၆။ ပါဒကနှင့်၊ သမ္မသိတံ၊ ပုဂ္ဂလံ၊ သုံးတန် ဈာန်ပွားရာ။

၄၇။ ပ, ဒု, တ, စ၊ လေးဝအညီ၊ ဆယ့်တစ်စီ၊ တောဝီ ပဥ္စမဈာန်။

၄၈။ သောမနဿစု၊ ဇောဇောရှု၊ ဥမ္မ တောဝီမှန်။

စိတ်အကျယ်-၁၂၁

၄၉။ ရှစ်ဆယ့်တစ် ကာ၊ ကုတ် တာလီ၊ ကော် ဝီ သတာဖြစ်။

၅၀။ သုံးဆယ့်ခွန် ကု၊ အပ္ပါးရှု ဝိ စု ငါးဆယ့်နှစ်။

၅၁။ ဥ-ပဋ္ဌေးစေး၊ သော-ဆ ဒွေး၊ ဒေါ်-ဒွေး, ဒု-သု-ကော် [၂]။

ပိုဒ်ပေါင်း ငါးဆယ်၊ ကဗျာခြယ်၊ ဤဝယ် စိတ်ပိုင်းပြီး။

စိတ်ပိုင်း ပြီး၏။

---------

## ၂- စေတသိက်ပိုင်း

စေတသိက်လက္ခဏာ -၄

(၁) ဧကုပ္ပါဒ=စိတ်နှင့် အဖြစ်တူခြင်း၊
(၂) ဧကနိရောဓ=စိတ်နှင့် အချုပ်တူခြင်း၊
(၃) ဧကာရမ္မဏ=စိတ်နှင့် အာရုံတူခြင်း၊
(၄) ဧကဝတ္ထုက=စိတ်နှင့် မှီရာဝတ္ထုတူခြင်း။

၅၂။ ဖြစ်, ပျက်, မှီ, အာ၊ တူလေးဖြာ၊ အင်္ဂါယှဉ်နိမိတ်။

၅၃။ စိတ်၌ မှီတွယ်၊ စိတ်ကိုခြယ်၊ ငါးဆယ်နှင့် ဒွိတ်၊ စေတသိက်။

---

၁- ၂- ကော်ကို အစ်ဟု ဖတ်ပါ

## သဗ္ဗစိတ္တသာဓာရဏ စေတသိက်- ၇

၅၄။ ဖဿ, ဝေ, သညာ, စေ၊ ဧ, ဇီ, မန၊ ဤသတ္တ၊ သဗ္ဗ စိတ်တိုင်းဖြစ်။

၅၅။ တွေ့, ခံ, မှတ်, ဆော်၊ တည်, သက်, မြော်၊ အဖော် ခုနစ်၊ စိတ်တိုင်းဖြစ်။

## ပကိဏ်းစေတသိက် -၆

၅၆။ တက်, စာ, ဝီ, ပီ၊ ဆန်, အဓိ၊ ပြွမ်းဘိ ပကိဏ်း ခြောက်။

* ဆော်တက်, ရစ်ဝဲ၊ အားခဲလှုံ့လ၊ အားရနှစ်လို၊ ပြုလိုချင်ဘိ၊ ဒွိဟာကင်းရှင်း၊ စိတ်ဖြစ်ခြင်း၊ လင်းစေ ပကိဏ်းခြောက်။

## အညသမာန်းစေတသိက် -၁၃

၅၇။ ကောင်းဆိုး နှစ်တန်၊ ခပ်တိုင်းငန်၊ သမာန်အည၊ တေရသ။

အညသမာန်းစေတသိက် ၁၃-ပြီး၏။

----------

*-အမှတ်ပြ သံခိပ်များသည် ဆရာတော်ကြီး၏ အဖြေကျမ်း နှာ (၇၇-၈၀) မှ ပါရှိသည်ကို ထပ်၍ထည့်ထားသည်။

## အကုသိုလ်စေတသိက် -၁၄

၅၈။ မောဟ, ဟိ, နောတ်, ဥစ်၊ မော စတုက်။

၅၉။ လော, မာန်, ဒိဋ္ဌိ၊ လော တြိ။

၆၀။ ဒေါ, ဣဿ,မစ်, ကုစ်၊ ဒေါ စတုက်။

၆၁။ ထိ, မိဒ်, ဝိစိ၊ ဆုံး တြိ။

၆၂။ ယုတ်မာ ညစ်ကြေး၊ မိုက်မဲမှေး၊ ဆယ့်လေး အကုသိုလ်။

* တွေဝေ မှေးမှိန်၊ မကြိမ် မသက်၊ မရှက်, မရွံ့၊ မစွန့် ခင်မင်၊ အမြင်မှောက်မှား၊ အထင်ကြွားနှင့်၊ ပြစ်မှား, ငြူစူ၊ ဝန်တိုဟူရှင့်၊ ပူပန်နောင်တ၊ ထိုင်း, မှိုင်းစွနှင့်၊ ဒွိဟယှက်ထွေး၊ လွန်ညစ်ကြေး၊ ဆယ့် လေး အကုသိုလ်။

အကုသိုလ်စေတသိက် -၁၄ ပြီး၏။

-------------------

## သောဘဏစေတသိက် -၂၅

၆၃။ သဒ္ဓါ, သတိ၊ ဟိရီ, ဩတ္တပ်၊ .ဟိတ် နှစ်ရပ်၊ တတြမဇ္ဈတ္တတာ။

၆၄။ ပဿဒ္ဓိ, လဟု၊ မုဒု, ကမ္မည်၊ ပါဂုညဉ်နှင့်၊ ထို့ပြင် ဥဇုက၊ ခြောက်စုံမွ၊ ကာယစိတ်နှင့်နှော။

၆၅။ ငြိမ်း, ပေါ့, နူးညံ့၊ ကျန်းခံ့, လေ့လာ၊ ဖြောင့်စင်းစွာ၊ ခြောက်ဖြာကိစ္စဟော။

၆၆။ သောဘဏတွင်၊ အကုန်ယှဉ်၊ ဤလျှင် ဆယ့်ကိုး
သော။
၆၇။ ဝိစာ, ကမ္မန်၊ အာဗိဝန်၊ သုံးတန် ဝိရတီ။
၆၈။ သမာဒါန၊ သမ္မတ္တာ၊ ဆေဒ သုံးသုံးလီ။
၆၉။ ကရု, မုဒု၊ ဤနှစ်ခု၊ ခေါ်မူ ပမညာ။
၇၀။ အသိ, အလိမ္မာ၊ ဉာဏ်, ပညာ၊ ဝိဇ္ဇာအမောဟ။
သောဘဏစေတသိက် ၂၅-ပါး ပြီး၏။

--------------

## သမ္ပယောဂနည်း

### အညသမာန်းစေတသိက် သမ္ပယောဂနည်း

၇၁။ သဗ္ဗစိတ္တော၊ ခုနစ်ထွေ၊ ယှဉ်လေ စိတ်အားလုံး။
၇၂။ ပဉ္စဝိညာဏ်၊ ကြဉ်တုံပြန်၊ ကာကျန် လေးဆယ့်
လေး။
၇၃။ လေးဆယ့် လေးတန်၊ ကာမကျန်ဝယ်၊ ပ, ဈာန်
ဆယ့်တစ်၊ လောင်းတုံလစ်၊ 'တက်' ဖြစ် ပဋ္ဌေးစေး။
၇၄။ ငါးဆယ့်ငါးတန်၊ 'တက်' ဖြစ်ရန်ဝယ်၊ ဒု,ဈာန်
ဆယ့်တစ်၊ လောင်းတုံလစ်၊ 'စာ' ဖြစ် ဆဆတွေး။
၇၅။ ပဉ္စဝိညာဉ်၊ သံ, သန်, ပဉ်၊ ကြဉ်ဝီ ဗျည်း သုဉ်ဓေး။
၇၆။ စဈာန် ကြဉ်ပစ်၊ သောကျန်စစ်၊ 'ပီ' ဖြစ်ပဋ္ဌေး။
၇၇။ မောမူ အဟိတ်၊ စိတ်နှစ်ဆယ်ပစ်၊ အကျန်စစ်၊
'ဆန်' ဖြစ် ကေ်သုဉ်ဓေး။

၇၈။ ပဥ္စဝိညာဉ်၊ ဝိစိ ကြဉ်၊ မိယှဉ် သုဉ်ကော်[၁] ဇေး။
အညသမာန်းစေတသိက်
သမ္ပယောဂနည်း ပြီး၏။

------------

## အကုသိုလ်စေတသိက် သမ္ပယောဂနည်း

၇၉။ မောစတုက် စု၊ ယှဉ်တုံမူ၊ အကု, တစ်ဆယ့်နှစ်။
၈၀။ လော, လောဘမူ၊ ဒိဋ္ဌိ သံယု၊ မာမူ ဝိပ်လေးဖြစ်။
၈၁။ ဒေါစတုက်မူ၊ ယှဉ်ရာယူ၊ ဒေါမူ စိတ်စုံနှစ်။
၈၂။ ထိ, မိဒ်, သသင်၊ ငါးမှာယှဉ်၊ ဝိစင် ဝိစိဖြစ်။
အကုသိုလ်စေတသိက် သမ္ပယောဂနည်း ပြီး၏။

------------

## ဝိရတီစေတသိက် သမ္ပယောဂနည်း

၈၃။ တစ်ဆယ့်ကိုးဖြာ၊ သောဘဏာ၊ ယှဉ်ရာ ကိုးဆယ့်
တစ်။
၈၄။ ကာမကုရှစ်၊ လောကုတ် ရှစ်၊ ဖြစ်ရာ ဝိရတီ။
၈၅။ ကာမကုမှာ၊ ယှဉ်တုံပါ၊ ရံခါ အသီးသီး။
၈၆။ လောကုတ် ရှစ်မှာ၊ ယှဉ်တုံပါ၊ မြဲစွာ တစ်ပေါင်း
တည်း။
ဝိရတီစေတသိက် သမ္ပယောဂနည်း ပြီး၏။

------------

၁-ဇော်-ကို အစ်ဟုဖတ်ပါ

## အပ္ပမညာစေတသိက် သမ္ပယောဂနည်း

၈၇။ မဟာကြိ ကုံ၊ ပ, ဒု, တ, စ၊ ရှပ ဆယ့်နှစ်၊ နှစ်ဆယ့်ရှစ်၊ ဖြစ်လေ ပမညာ။

၈၈။ ကိစ္စအာရုံ၊ အခွင့်ကြုံ၊ ဖြစ်တုံသီးသီးသာ။

အပ္ပမညာစေတသိက် သမ္ပယောဂနည်း ပြီး၏။

-------------

## ပညာစေတသိက် သမ္ပယောဂနည်း

၈၉။ ကုံ, ဝိ, ကြိဉာဏ်၊ စျာန် မဟဂ္ဂုတ်၊ လောကုတ်တစ်ခွင်၊ အကုန်ယှဉ်၊ ပညာ စေတသိက်။

ပညာစေတသိက် သမ္ပယောဂနည်း ပြီး၏။

သမ္ပယောဂနည်း ပြီး၏။

--------

## သင်္ဂဟနည်း

### အကုသိုလ်စိတ်၌ သင်္ဂဟနည်း

၉၀။ အညသမန်၊ ဆယ့်သုံးခံ၊ လေးတန် မောစတု။

၉၁။ ပ, အ, ၌မူ၊ လော, ဒိဋ္ဌိ, ကူ၊ ပေါင်းမူ ဆယ့်ကိုးရှု။

၉၂။ ဒု, အ, ၌မူ၊ လော, မာန်, ကူ၊ ပေါင်းမူ ဒသ်နောပြု။

၉၃။ ယင်းဆယ့်ကိုးနှစ်၊ ပီတိပစ်၊ ဆယ့်ရှစ်, တ,
စ, အ။

၉၄။ ယင်းလေးရပ်တွင်၊ ထိ, မိဒ်, ဝင်၊ သသင်
လေးခုရ။

၉၅။ ဆယ့်ကိုး ဆယ့်ရှစ်၊ ဝီကော် ၁ ဝီသော၊ နှစ်စီဝေ၊
လေးထွေ သင်္ဂဟ။

၉၆။ ပီပစ် အည်၊ ဆယ့်နှစ်ခံ၊ လေးတန် မောစတု။

၉၇။ ဒေါစတုက်ကူ၊ ဒေါသမူ၊ ပေါင်းယူနှစ်ဆယ်ရှု။

၉၈။ ယင်း နှစ်ဆယ်တွင်၊ ထိ, မိဒ်, ဝင်၊ သသင်
ဒွေဒွေပြု။

၉၉။ ပီ, အမိ, ဆန်၊ ကြဉ်တုံပြန်၊ အည် တစ်ဆယ်
ထား။

၁၀၀။ မောစတုပါ၊ စိကိစ္ဆာ၊ စိ, မှာ တစ်ဆယ့်ငါး။

၁၀၁။ ပီ, ဆန်, ပယ်ပစ်၊ အဉ်ဆယ့်တစ်၊ ထည့်လစ်
မောစတု။

၁၀၂။ ဥဒ္ဓစ္စမှာ၊ ရတုံပါ၊ သင်္ချာ ဆယ့်ငါးခု။

အကုသိုလ်စိတ်၌ သင်္ဂဟနည်း ၅-ပြီး၏။

----------

## အဟိတ်စိတ်၌ သင်္ဂဟနည်း

၁၀၃။ သဗ္ဗစိတ္တာ၊ ခုနစ်ရ၊ ပဉ္စ ဝိညာဏ်မှာ။

၁၀၄။ ဝီ, ဆန်, ပယ်ပစ်၊ တစ်ဆယ့်တစ်၊ ဖြစ်တုံ့
'သော-တီ' မှာ။

၁၀၅။ ပီ, ဆန်, ပယ်ပစ်၊ တစ်ဆယ့်တစ်၊ ဖြစ်တုံ့
မနောဒွါ။

၁၀၆။ ဆန္ဒ ပယ်ပစ်၊ တစ်ဆယ့်နှစ်၊ ဖြစ်တုံ့'ဟသိ'
မှာ။

၁၀၇။ ဝီ, ပီ, ဆန်, ပယ်၊ ကျန် တစ်ဆယ်၊ ငါးသွယ်
ကြွင်းဟိတ်မှာ။

၁၀၈။ ခုနစ်; ဆယ့်တစ်၊ တစ်ဆယ့်နှစ်၊ နောက်ဖြစ်
တစ်ဆယ်သာ။

အဟိတ်စိတ်၌ သင်္ဂဟနည်း ၄-ပြီး၏။

--------

## ကာမာဝစရစိတ်၌ သင်္ဂဟနည်း

၁၀၉။ ဆယ့်သုံး အညာ၊ သောဘဏာ၊ ပေါင်းထ
သုံးဆယ့်ရှစ်။

၁၁၀။ ပ ကု ဒွေမှာ၊ ယှဉ်တုံပါ၊ ဒုမှာ ဉာဏ်ကိုပစ်။

၁၁၁။ ပီပစ် ဉာဏ်ယှဉ်၊ တ ဒွေတွင်၊ စ တွင် ဉာဏ်,
ပီပစ်။

၁၁၂။ သုံးဆယ့်ရှစ်တွင်၊ ဝိရတီကြဉ်၊ ကြိတွင် ကု
နည်းသွား။

၁၁၃။ သုံးဆယ့်ငါးတွင်၊ မညာကြဉ်၊ ဝိတွင် ကြိ
နည်းသွား။

၁၁၄။ လေးစုံသုံးထပ်၊ ဆယ့်နှစ်ရပ်၊ မှတ်လေ နည်း
အပြား။

ကာမာဝစရစိတ်၌ သင်္ဂဟနည်း ၁၂-ပြီး၏။

----------

## မဟဂ္ဂုတ်စိတ်၌ သင်္ဂဟနည်း

၁၁၅။ မဟဂ္ဂုတ်တွင်၊ ဝိရတီကြဉ်၊ ပဉ်မှာ မညာပစ်။

၁၁၆။ သုံးဆယ့် ငါးတန်၊ ငါးဆင့်ဖန်၊ ဈာန်အင်္ဂါ
နည်းသွား။

၁၁၇။ သုံးဆယ့် ငါး, လေး၊ သုံးနှင့်, ဒွေး၊ တီသေး
နည်းအပြား။

မဟဂ္ဂုတ်စိတ်၌ သင်္ဂဟနည်း ၅-ပြီး၏။

----------

## လောကုတ္တရာစိတ်၌ သင်္ဂဟနည်း

၁၁၈။ ဒွေ ပမညာ၊ ကြဉ်တုံပါ၊ သချာ သုံးဆယ့်
ခြောက်။

၁၁၉။ လောကုတ် ဈာန်တွင်၊ ပွါးနည်းယှဉ်၊ အစဉ်
ငါးဆင့်မြောက်။

၁၂၀။ သုံးဆယ့်ခြောက်, ငါး၊ လေး, သုံး, ဒွါး၊ ငါးပါး
သင်္ဂဟာ။

လောကုတ္တရာစိတ်၌ သင်္ဂဟနည်းပြီး၏။

**သင်္ဂဟနည်းပြီး၏။**

-----------

## နိယတ, အနိယတ စသည်

၁၂၁။ မာ, ဣဿ, မစ်, ကု၊ ထိ, မိဒ်, စု၊ သုံးခု ဝိရတိ။
၁၂၂။ နှစ် ပမညာ၊ ဆယ့်တစ်ဖြာ၊ ရံခါ ယှဉ်ကြဘိ။
၁၂၃။ အာရုံ မတူ၊ ကွဲကြမူ၊ အတူ မဖြစ်ဘိ။
၁၂၄။ သံ, သင်, ကိုသိ၊ အကျယ်ချို၊ များဘိ စေ
သီးသီး။
- ပိုဒ်ပေါင်း ခုနစ်ဆယ်၊ လက်ာခြယ်၊ ဤဝယ်
စေပိုင်းပြီး။

**စေတသိက်ပိုင်းပြီး၏။**

-------------

## ၃– ပကိဏ်းပိုင်း

### ဟေတုသင်္ဂဟ

၁၂၅။ လော, ဒေါ, မော သုံး၊ အ, နှင့် သုံး၊ ခေါ်ထုံး
ဟိတ် ခြောက်ပါး။
၁၂၆။ ရေသောက်မြစ်နှယ်၊ ကျေးဇူးကြွယ်၊ ကြီးကျယ်
ကြောင်းရင်းများ။

၁၂၇။ အဟိတ် ဆယ့်ရှစ်၊ ဧဟိတ် နှစ်၊ ဒွိဖြစ် ဝိသဒွေး။

၁၂၈။ ဟိတ် သုံးပါးယှဉ်၊ တိဟိတ်တွင်၊ သချာဖောသတ္တေး။

၁၂၉။ စိတ်နှင့် စေယှဉ်၊ ကျေလည်လျှင်၊ ဟိတ်မြင်မခက်သေး။

ဟေတုသင်္ဂဟ ပြီး၏။

------------

## ကိစ္စသင်္ဂဟ

၁။ ပဋိသန္ဓိကိစ္စ=ဘဝအသစ်အသစ် ဆက်လက်ခြင်း ကိစ္စလည်းကောင်း။

၂။ ဘဝင်္ဂကိစ္စ=ဘဝကို စောင့်ရှောက်ခြင်း ကိစ္စလည်းကောင်း။

၃။ အာဝဇ္ဇနကိစ္စ=ဆင်ခြင်ခြင်း ကိစ္စလည်းကောင်း။

၄။ ဒဿနကိစ္စ=မြင်ခြင်းကိစ္စလည်းကောင်း။

၅။ သဝနကိစ္စ=ကြားခြင်းကိစ္စလည်းကောင်း။

၆။ ဃာယနကိစ္စ=နံခြင်းကိစ္စလည်းကောင်း။

၇။ သာယနကိစ္စ=လျှက်ခြင်း သာယာခြင်း ကိစ္စလည်းကောင်း။

၊ ဖုသနကိစ္စ= တွေ့ထိခြင်းကိစ္စလည်းကောင်း။

၉။ သမ္မဇ္ဇနကိစ္စ=လက်ခံသိမ်းပိုက်ခြင်း ကိစ္စလည်းကောင်း။

၁၀။ သန္တီရဏကိစ္စ= စိစစ်ခြင်းကိစ္စလည်းကောင်း။

၁၁။ ဝေါဋ္ဌပ္ပနကိစ္စ= ပိုင်းခြားမှတ်သားခြင်း ကိစ္စလည်းကောင်း။

၁၂။ ဇဝနကိစ္စ=အဟုန်နှင့်တကွ ကျရောက် ခံစံခြင်း ကိစ္စလည်းကောင်း။

၁၃။ တဒါရမ္မဏကိစ္စ=ဇော၏အာရုံလျှင် အာရုံရှိသည်ဖြစ်၍ ဇောသို့အစဉ်လိုက်ခြင်း ကိစ္စလည်းကောင်း။

၁၄။ စုတိကိစ္စ=ဘဝမှ ရွေ့လျောခြင်း ကိစ္စလည်းကောင်း၊

စုဒ္ဒသ ကိစ္စာနိ=တစ်ဆယ့်လေးပါးသော ကိစ္စတို့တည်း။

၁၃၀။ စပ်ဆက်, စီစဉ်၊ ဆင်ခြင်, ကြည့်ရှု၊ ကြားနာမှုနှင့်၊ နံမှု, လျက်မှု၊ တွေ့ထိမှုမှန်၊ လက်ခံ, စစ်ဆေး၊ ပိုင်းခြားရေးတည့်၊ သိရေးတွင်ကျယ်၊ တာတွယ် လိုက်စား၊ ရွေ့ရှား ပြောင်းခွါ၊ ဆယ့်လေးဖြာ၊ ပြုရာ ကိစ္စစဉ်။

၁၃၁။ ဥ သန္တီရိ၊ စိတ် နှစ်ဒွိမူ၊ သန္ဓိ, ဘဝင်၊ သန္တီရင်နှင့်၊ အစဉ်လိုက်မူ၊ အဆုံးစု၊ ငါးခု ကိစ္စစဉ်။

၁၃၂။ အာဝဇ္ဇန်း၊ ကိစ္စဝန်၊ ဝဇ္ဇန် နှစ်စိတ်ပင်။

၁၃၃။ ဒဿနာဒိ၊ စက္ခာဒိ၊ သိလေ ကိစ္စစဉ်။

၁၃၄။ ဝုဋ္ဌောကိစ္စာ၊ မနောဒွါ၊ တစ်သာ အမြဲပင်။

၁၃၅။ ဝဇ္ဇန် ကြဉ်ဘိ၊ ကုကုကြိ၊ ဖိုလ်ထည့် ဇောပဉ်ပဉ်။

၁၃၆။ သန္တီ တြိ၊ မဟာဝိ၊ မှတ်သိ တဒါရင်။

၁၃၇။ သောသန္တီရိ၊ ကိစ္စ ဒွိ၊ သန္တီ , တဒါရင်။

၁၃၈။ မနောဒွါရာ၊ ဒွိ ကိစ္စာ၊ ဝုဋ္ဌာ, ဝဇ္ဇန်ပင်။

၁၃၉။ ရှစ် မဟာဝိ၊ ဘွင်, သန္ဓိ၊ စုတိ, တဒါရင်။

၁၄၀။ ကိုး မဟဂ်ဝိ၊ ကိစ္စ တြိ၊ သန္ဓိ, ဘွင်, စု, ယှဉ်။

၁၄၁။ တစ်, ခြောက်, ဆယ့်ရှစ်၊ နှစ်မူ- နှစ်၊ လေး- ရှစ်, သုံး- ကိုးပင်။

၁၄၂။ ငါးမူကား-ဒွိ၊ အပေါင်းသိ၊ ပြီး၏ ကိစ္စသင်။

ကိစ္စသင်္ဂဟ ပြီး၏။

------------

ဒွါရသင်္ဂဟ

၁၄၃။ စက်, သော, ဃာ, ဇိ၊ ကာ, မနီ၊ ခြောက်လီ ဒွါရမှတ်။

၁၄၄။ အကြည် အလင်၊ ဖိတ်ဖိတ်လွင်၊ ထွက်ဝင် တံခါးဓာတ်။

၁၄၅။ ဘဝင် ဆယ့်ကိုး၊ စိတ်အမျိုး၊ ခေါ်ရိုး မနောဒွါ။

၁၄၆။ စက္ခု စသည်၊ ဖိတ်ဖိတ်လည်၊ အကြည် ရုပ်

တို့သာ။

၁၄၇။ မနော ဟူသည်၊ ဖိတ်ဖိတ်လည်၊ အကြည်နာမ်တို့သာ။

၁၄၈။ ပဉ္စဝိညာဉ်၊ ကိုယ်စီယှဉ်၊ ငါးအင် ဒွါရမှာ။

၁၄၉။ မနောဓာတ်ခေါ်၊ စိတ်မနော်၊ ငါးဖော် ဒွါရမှာ။

၁၅၀။ မနောဒွါရာ၊ တီ သုံးဖြာ၊ မဟာဝိပါက်ရှစ်။

၁၅၁။ နှစ်ဆယ့်ကိုးမျှ၊ ဇောကာမ၊ ဒွါရ ခြောက်ပါးဖြစ်။

၁၅၂။ ဇောအပ္ပနာ၊ ဆဗ္ဗိသာ၊ မှန်စွာ မနောဖြစ်။

၁၅၃။ ဆယ့်ကိုး ပဋိသန်၊ စိတ်အမှန်၊ ခြောက်တန် ဒွါရလွတ်။

၁၅၄။ စက္ခု ဒွါရောက်၊ လေးဆယ့်ခြောက်၊ ယူကောက် စိတ်အရ။

၁၅၅။ သောတ စသည်၊ ဒွါ လေးလီ၊ ထုံးမှီ ရှေးနည်းပြ။

၁၅၆။ ခြောက်ဆယ့်ခွန်သာ၊ မနောဒွါ၊ သချ်ာ စိတ်ရေရ။

၁၅၇။ တစ်ဒွါရ ရောက်၊ သုံးဆယ့်ခြောက်၊ ငါးရောက် မနောသုံး။

၁၅၈။ ခြောက်ဒွါရဖြစ်၊ သုံးဆယ့်တစ်၊ လွတ်၊ ဖြစ် တစ်ဆယ်နှုန်း။

၁၅၉။ မဟာဂ် ဝိပါ၊ ကိုးခုမှာ၊ ခြောက်ဒွါ လွတ်မြဲထုံး။
ဒွါရသင်္ဂဟ ပြီး၏။

---------

အာရမ္မဏ သင်္ဂဟ။

၁၆၀။ ရူပ, သဒ္ဒါ၊ ဂန္ဓာ, ရသ၊ ဖောဋ္ဌဗ္ဗ၊ ဓမ္မ ခြောက် အာရုံ။
၁၆၁။ စိတ်, စေတသိက်၊ နိဗ်, ရုပ်အကြွင်း၊ ပညတ် အများ၊ ဤငါးပါး၊ မှတ်သား ဓမ္မာရုံ။
၁၆၂။ ဆွဲကိုင်မှီတွယ်၊ ကျေးဇူးကြွယ်၊ ခြောက်သွယ် ခေါ် အာရုံ။
၁၆၃။ နိဗ္ဗာန် ပညတ်၊ နှစ်ရပ် ဓမ္မ၊ ဖြစ်ကင်းပ၊ ကာလ ဝိမုတ်ကြ။
၁၆၄။ ပဉ္စဝိညာဏ်၊ ကိုယ်စီရံ၊ ငါးတန် ရူပါဒိ။
၁၆၅။ မနောဓာတုံ၊ ငါးအာရုံ၊ နှစ်စုံ ဆယ့်သုံးရှိ။
၁၆၆။ ပစ္စုပ် ဧကန်၊ ရုပ်ဧကန်၊ အမှန် တွေးယူညှိ။
၁၆၇။ တဒါ ဟသ၊ ဆယ့်နှစ်ဝ၊ ကာမကိုသာ သိ။
၁၆၈။ အကု ဆယ့်နှစ်၊ ရှစ် ဝိပ္ပယုတ်၊ ကု, ကြိ, ထုတ်၊ လောကုတ် ကြဉ်၍ သိ။
၁၆၉။ ကာမကုညာဏ်၊ ကုဘိညာဏ်၊ ငါးတန် စိတ် မနိ[၁]။

---

၁- စိတ်မနိ=စိတ်မနော၊

၁၇၀။ ရဟာတ် မဂ်ဖိုလ်၊ ကြဉ်စေလို၊ ကြွင်းကို အကုန်သိ။

၁၇၁။ ကာမကြိဉာဏ်၊ ကြိဘိညာဏ်၊ ဝဋ္ဋန် မနော ဆိ။[၁]

၁၇၂။ ခပ်သိမ်း အာရုံ၊ အလုံးစုံ၊ အကုန်ပြုလေဘိ။

၁၇၃။ ဘိညာကြဉ်မူ၊ ဆယ့်ငါး ရူ၊ အရူ ပ,တ, ဆိ[၂]။

၁၇၄။ ပညတ် ဧကစ်၊ နှစ်ဆယ့်တစ်၊ စင်စစ် အမှန်သိ။

၁၇၅။ အရူ ဒုမှာ၊ ပ-ကိုသာ၊ စ-မှာ တ-ကို သိ။

၁၇၆။ လောကုတ္တရာ၏ စိတ် ရှစ်တန်၊ နိဗ္ဗာန်ကိုသာ သိ။

အာရမ္မဏသင်္ဂဟပြီး၏။

----------

ဝတ္ထုသင်္ဂဟ

၁၇၇။ စက်, သော, ဃာ, ဇိ ကာ, ဟဒီ၊ ခြောက်လီ ဝတ္ထုရုပ်။

၁၇၈။ တည်ရာ, မှီရာ၊ မြေပမာ၊ လွန်စွာ ကျေးဇူး ထုတ်။

၁၇၉။ ဝတ္ထု ခြောက်စုံ၊ ကာမဘုံ၊ အကုန်ရသည်သာ။

၁၈၀။ စက်, သောနှစ်တန်၊ ဟဒယ်၊ သုံးတန် ရူပမှာ။

၁၈၁။ အရူပမူ၊ ဝတ္ထုဟူ၊ မြူမျှ မရှိပါ။

---

၁-၂- ဆိ=ဆ=ခြောက်ပါး

၁၈၂။ ဝိညာဏ် ဆယ်လီ၊ အမြဲမှီ၊ ငါးလီ သီးသီးသာ။
၁၈၃။ မနောဓာတ်သုံး၊ မှီမြဲထုံး၊ အဆုံး ဝတ္ထုမှာ။
၁၈၄။ သန္တီ, မဟာဝိ၊ ဒွေ ပဋိ၊ ဟသိ ဆယ့်ငါးရူ။
၁၈၅။ သောတာမဂ္ဂ၊ သုံးဆယ်ရ၊ ဟဒ္ဒ အမြဲယူ။
၁၈၆။ အရူပဝီ၊ စတု ညီ၊ အမှီ မရှိဟူ။
၁၈၇။ လော, မော ဆယ်ဖြာ၊ မနောဒွါ၊ မဟာကု, ကြိရှစ်။
၁၈၈။ ကု, ကြိ ရှစ်ဖြာ၊ အရူပါ၊ ကုတ်မှာ ထက်ခုနစ်။
၁၈၉။ ဝတ္ထုရုပ်စီ၊ မှီ မမှီ၊ ပေါင်းညီ လေးဆဲ့နှစ်။
၁၉၀။ မှီ စတုတေး၊ မမှီ လေး၊ စဒွေး မှီ မမှီ။
ပိုဒ်ပေါင်း ခြောက်ဆယ်၊ လက်ခြယ်၊ ဤဝယ် ပကိဏ်းပြီး။

ပကိဏ်းပိုင်း ပြီး၏။

---------

## ၄ - ဝီထိပိုင်း

### စိတ်သက်, ရုပ်သက်

၁၉၁။ ဖြစ်, တည်, ချုပ်လတ်၊ ဤသုံးရပ်၊ ဥပါဒ်, ဌီ, ဘင် ယူ။
၁၉၂။ ခဏငယ် သုံးချက်၊ အပေါင်းနက်၊ စိတ္တက္ခဏ ယူ။

၁၉၃။ လျှပ်တစ်ပြက်တွင်၊ စိတ္တက္ခဏော၊ အပေါင်းရေ ကုဋေ တစ်သိန်းဟူ။
၁၉၄။ ဆယ့်ခုနစ်ချက်၊ ထိုစိတ်သက်၊ ရုပ်သက် တစ်ခုယူ။
၁၉၅။ လက္ခဏာ လေး၊ ဝိညတ် ဒွေး၊ ကြဉ်ရေး ရုပ်ဒွိဒူ။ စိတ်သက် ရုပ်သက် ခွဲခန်း ပြီး၏။

-----------

## ပဉ္စဒွါရဝီထိ အပြား

၁၉၆။ ဒွါရမုတ်မျိုး၊ တစ်ဆယ့်ကိုး၊ ခေါ်ရိုး ဝီထိမုတ်။
၁၉၇။ ခြောက်ဒွါရဝယ်၊ စိတ်စဉ်ခြယ်၊ ခြောက်သွယ် ဝီထိထုတ်။
၁၉၈။ တိမဟာန်နှင့်၊ မဟာန်, ပရိတ်၊ တိပရိတ်၊ ဖြာစိတ် ပဉ္စဒွါ။
၁၉၉။ အတိမဟာန်၊ တစ်ချက်လွန်၊ မဟာန် နှစ်, သုံးသာ။
၂၀၀။ လေးက အစ၊ ကိုးတိုင်မျှ၊ လွန်က ပရိတ္တာ။
၂၀၁။ တစ်ဆယ် အာဒိ၊ ဆယ့်ငါးထိ၊ လွန် တိပရိတ္တာ။
၂၀၂။ တဒါနှင့် ဇော၊ ဝုဋ္ဌော, မောဃ၊ လေးဝါရ ယှဉ်ကြ စဉ်တိုင်းသာ။

၂၀၃။ ပရိတ္တာ ထုံး၊ ဝုဋ္ဌောဆုံး၊ နှစ်, သုံး အကြိမ်သာ။

ပဉ္စဒွါရဝီထိအပြား ပြီး၏။

---------

## ပဉ္စဒွါရဝီထိ ဖြစ်ကြောင်းများ

၂၀၄။ စက္ခု, လောက၊ ရူပ ထင်ပြီ၊ မနသိ၊ လေးလီ စက္ခုဘို့။

၂၀၅။ သောတ, ကာသ၊ သဒ္ဒ ထင်ပြီ၊ မနသိ၊ လေးလီ သောတဘို့။

၂၀၆။ ဃာန, ဝါတ၊ ဂန္ဓ ထင်ပြီ၊ မနသိ၊ လေးလီ ဃာနဘို့။

၂၀၇။ ဇိဝှါ, အာပ၊ ရသ ထင်ပြီ၊ မနသိ၊ လေးလီ ဇိဝှါဘို့။

၂၀၈။ ကာယ, ထဒ္ဓ၊ ဖောဋ္ဌ ထင်ပြီ၊ မနသိ၊ လေးလီ ကာယဘို့။

ပဉ္စဒွါရဝီထိ ဖြစ်ကြောင်း ပြီး၏။

----------

## ဝီထိ အစဉ်

၂၀၉။ အတီ, စလေ၊ ဥပစ္ဆေ၊ သုံးထွေ ဘဝင်။

၂၁၀။ ဘဝင် သုံးတန်၊ အာဝဇ္ဇန်၊ ဝိညာဏ် ဒွေပဉ္စ။

၂၁၁။ သံ,သန်,ဝုဋ္ဌာ၊ ဇောသတ္တာ၊ တဒါ နှစ်ကြိမ်ကျ။

၂၁၂။ ထိုနောက် ဘဝင်၊ အများပင်၊ လေးစဉ် နုဗန္ဓ။

၂၁၃။ ပဥ္စဝိညာဏ်၊ မှီရာမှန်၊ ငါးတန် သူ့ဒွါရ။
၂၁၄။ မနဒွ, အမန်၊ မဣမ်၊ သုံးတန် အာယုက။
၂၁၅။ ပဥ္စဝိဉ် ဉ၊ ဌိကိုရှု၊ ကေပညာသ။
၂၁၆။ တီ, ဘွင် ပြိုင် ဉ၊ မဣပြု၊ နှစ်ခု ရှေ့နောက်ကျ။
၂၁၇။ စိတ္တက္ခဏ်၊ တစ်ချက်လွန်၊ ဟဒံ မှီကြွင်းစု။

ပဥ္စဒွါရ ဝီထိ ပြီး၏။

-----------

## အနုဗန္ဓကဝါရ

**အတိဝိဘူတာရုံ, ဝိဘူတာရုံ, အဝိဘူတာရုံ,**
**အတိအဝိဘူတာရုံ။**

၂၁၈။ ဝိဘူ လေးဖြာ၊ မနောဒွါ၊ လွန်စွာ အပြားများ။
၂၁၉။ တဒါ, ဇောနှင့်၊ ဝုဋ္ဌော, မောဃ၊ လေးဝါရ၊ ယှဉ်ကြ အစဉ်အား။
၂၂၀။ ကာမဝါရာ၊ အပ္ပနာ၊ နှစ်ဖြာ အရင်းထား။
၂၂၁။ အနုဗန္ဓကာ၊ သုဒ္ဓိကာ၊ ကာမ နှစ်ထွေပြား။
၂၂၂။ အတိတ်, သမူဟ၊ အတ္ထဒြပ်၊ နာမ်ပညတ်၊ လေးရပ် နုဗန်ပွား။

အနုဗန္ဓကဝါရ ပြီး၏။

-----------

## ကာမသုဒ္ဓိက ဝီထိ

၂၂၃။ ဒိဋ္ဌ, သုတံ၊ ဝိညာတံ၊ သမ္ပန် ကိုယ်စီပွား။

၂၂၄။ ကာမနာမ်ရုပ်၊ မဟဂ္ဂုတ်၊ လောကုတ် ပညတ်
ထား။

၂၂၅။ ပစ္စုပ်, တီတ၊ နာဂတ၊ ကာလ ဝိမုတ်ပွား။

ကာမသုဒ္ဓိက ဝီထိ ပြီး၏။

-----------

ကာမ မနောဒွါရ ဝီထိ

၂၂၆။ ဘဝင် နှစ်တန်၊ အာဝဇ္ဇန်၊ ကာမံဇော သတ္တာ။

၂၂၇။ တဒါ ဒွယ၊ ဘဝင်ကျ၊ များလှ နောက်လိုက်
မှာ။

၂၂၈။ ဝါရ လေးသွယ်၊ ဝေဘန်ခြယ်၊ ဝုဋ္ဌဝယ် နှစ်,
သုံးသာ။

(ဝုဋ္ဌောကို ဝုဋ္ဌ ဆိုသည်)

ကာမ မနောဒွါရဝီထိ အပြား ပြီး၏။

------------

ဝိပါက နိယမ

၂၂၉။ ကာ္မဒွာရုံတွင်၊ ကု-ဝိ ယှဉ်၊ တိ တွင် သော
မနသ်။

၂၃၀။ အနိဋ္ဌာပြို၊ အကု-ဝိ၊ ကြိလည်း ဝိနှယ်တတ်။

၂၃၁။ ဒေါနောက်မှာမူ တဒါ, ဘဝင်၊ သော မယှဉ်၊
ဥ, လျှင် အမြဲမှတ်။

၂၃၂။ သောပုဂ္ဂလ၊ ဇောဝါရ၊ ဒေါမှ နောက် ဥ-အာ။

၂၄၃။ တိဏ္ဏင့် တရုပ်၊ မဟာဂ္ဂုတ် နှင့်၊ ပညတ် တစ၊ ဝေါဓော ကျူ၊ ဒေါမှ နောက် ဥ-အာ၊
၂၄၄။ ပုဂ္ဂိုလ်ကာမ၊ ဓောကာဝမနှင့်၊ ကာမအောရုံ၊ သုံးချက်ဆုံ၊ တဒါရုံ၏ အခွင့်တည်း။

ဝိပါကနိယမ ပြီး၏၊

----------

## ကာမဇောဝါရ နိယမ

၂၄၅။ အနိုး သတ်, ဆ၊ အားနည်းလျှ၊ ပဉ္စ အကြိမ် သာ၊
၂၄၆။ ဝသီခေါင်မှုအား ဈာန်နှင့်ကြွား လေး,ငါး နှစ် ထွေလာ၊

ကာမဇောဝါရ နိယမ ပြီး၏၊

----------

## အပ္ပနာဇောဝါရ

ပရိကံ, ဥပစာ, အနုလုံ, ဂေါတြဘူ၊

၂၄၇။ ကာမ ရှစ်တန်၊ ကု ကြိ ညာဏ်၊ သုံးတန် လေးကြိမ်သာ၊
၂၄၈။ လေး,ငါးကြိမ်မြောက်၊ ပနာရောက်၊ ထို့နောက် တိ ဘွင် သာ၊
၂၄၉။ သောမှာ သောချင်း၊ ဥ ဥချင်း၊ ယှဉ်လျှင်း ကာဝနာ၊

၂၄၀။ ကုကု, ဖိုလ် သုံး၊ ကြိ, ကြိ ရုံး၊ ထက်ဆုံး ဖိုလ် အပါ။

၂၄၁။ သော ကု နောင်ဖြစ်၊ သုံးဆယ့်နှစ်၊ ဆယ့်နှစ် ဥကု မှာ။

၂၄၂။ သောကြိ နောင်ရှစ်၊ ဥကြိ နှစ်၊ နောက်ဖြစ် ခြောက်ပနာ။

၂၄၃။ အာဒိကမ္မ၊ မဂ် ဘိညာ၊ ရောဓ ဆုံး ဇော။

၂၄၄။ မဂ်နောင် ဖိုလ်လေး၊ နှစ်, သုံးရေး၊ နိရှေး နေ့,နှစ်သာ။

၂၄၅။ ဆိုပြီးသည်မှ၊ ကြွင်းသမ္ဗျ၊ များလှ ကြိမ်ပနာ။

အပ္ပနာဇောဝါရပြီး၏။

----------

ဘုံ၌ စိတ်ရပုံ

၂၄၆။ မဟာဂ်ဝိကြဉ်၊ ကာမတွင်၊ စိတ်လျှင်ရှစ်ဆယ်ရ။

၂၄၇။ ဆ ဃာနာဒိ၊ မဟာဝိ ရှစ်၊ ဒေါနှစ် တမူ၊ အရူ ဝိလေး၊ ကြဉ်ရေး နှစ်ဆယ်၊ ဆနောကြွယ်၊ ခြောက်ဆယ်ကိုး ရူပ။

၂၄၈။ ဝဋ္ဋု ရုပ်စီ၊ မှီမမှီလစ်၊ လေးဆယ့်နှစ်ဟူ၊ အရူဝိ လေး၊ ပေါင်းထွေး တုံမြောက်၊ လေးဆဲ့ ခြောက်၊ ရမြောက် အရူပ။

ဘုံ၌ စိတ်ရပုံ ပြီး၏

:

## ဘုံ၌ပုဂ္ဂိုလ်ရ

၂၄၉။ ဒု, သု, ဒွိ, တိ၊ အရိယာ ရှစ်၊ တစ်ကျိပ်နှစ်၊ ပြားလစ် ဝါကရာ။

၂၅၀။ အပါယ် ဒုစ၊ လူ, စ, ဒုပစ်၊ နှစ်ဆယ့်နှစ်၊ ပေါင်းလစ် နှစ်ဆယ့်ခြောက်။

၂၅၁။ ဒု,သုမယှဉ်၊ ထက်နတ်ခွင်၊ ပေါင်းလျှင် ငါး ကျိပ်မြောက်။

၂၅၂။ တိဟိတ် အရိယာ၊ ကိုးသန်ျာ၊ ပြဟ္မာ ဝေဟပ် ရောက်။

၂၅၃။ သညသတ်မှာ၊ သု တစ်သာ၊ သုဒ္ဓါ ထက်သုံး ကောက်။

၂၅၄။ သောတာမဂ်ပစ်၊ ခုနစ် အရိယာ၊ တိဟိတ်ပါ၊ လေးဖြာဘုံနှင့် မြှောက်။

၂၅၅။ နှစ်ရာ့တစ်ဆယ်၊ လေးယောက်ကယ်၊ အ ကျယ်ဘုံ တလျှောက်။

ဘုံ၌ ပုဂ္ဂိုလ်ရ ပြီး၏။

-----------

## ပုဂ္ဂိုလ်၌ စိတ်ရ

၂၅၆။- ‘ဇောကိုးကြိ၊ မဟာဝိ ရှစ်၊ ဆယ့်ခွန်’ပစ်၊ ဒုဖြစ် တြိန်းသတ်။

၂၅၇။ ဝိပ္ပယုတ် ဝိပါက်၊ လောင်းစွက်ပြန်လစ်၊ လေး

ဆယ့်တစ်၊ ဖြစ်လေ သု, ဒွိမှတ်။

၂၅၈။ သမ္ပယုတ် ဝိပါက်၊ လောင်းစွက်ပြန်ငြား၊ လေးဆယ့်ငါး၊ မှတ်သား တိဟိတ်မှာ။

၂၅၉။ မဟာဂ် ကု ကြိ၊ လောင်းတုံဘိ၊ တိဟိတ် အကုန်ပါ။

၂၆၀။ မဂ္ဂဋ္ဌာန်စု၊ မဂ်လေးခု၊ ရမှု ဧကံသာ။

၂၆၁။ ဒိဋ္ဌသံ, ဝိစိ၊ ကြဉ်တုံဘိ၊ အာဒိ ဒွေဖလာ။

၂၆၂။ ဒေါကို ပယ်ပြန်၊ အနာဂါမ်၊ အကျန် သူတို့မှာ။

၂၆၃။ အကုသိုလ်နှင့်၊ ကုသိုလ် နှစ်သွယ်၊ အောက် ဖိုလ် ပယ်ဘိ။ ဗျည်းတြိ၊ သိလေ ရဟန္တာ။

ပုဂ္ဂိုလ်၌ စိတ်ရ ဝေဘန်ခန်း ပြီး၏။

ပိဋ္ဌ်ခုနစ်ဆယ်၊ လင်္ကာခြယ်၊ ဤဝယ် ဝီထိပြီး။

ဝီထိပိုင်း ပြီး၏။

-----------

## ၅-ဘုံပိုင်း

### ကာမ ၁၁-ဘုံ

၂၆၄။ ကိုးသိန်း ခြောက်သောင်း၊ အထုပေါင်း၊ တည် ရှောင်း အောက်ခံလေ။

၂၆၅။ လေးသိန်း ရှစ်သောင်း၊ အထုပေါင်း၊ တည် ရှောင်း လေထက် ရေ။

၂၆၆။ နှစ်သိန်း လေးသောင်း၊ အထုပေါင်း၊ တည် ရှောင့်း ရေထက် မြေ။

၂၆၇။ သိလာ, ပံသု၊ မြေနှစ်ခု၊ အထု ထက်ဝက် ဝေ။

၂၆၈။ သိဦှုဝ်း, ကာလ၊ သဃ်ာတ၊ ဒွယ ရောရှဝါ။

၂၆၉။ တာယနှ ဒွိ၊ အဝီစိ၊ တည်ရှိ ငရဲရွာ။

၂၇၀။ သောင်းငါးထောင်စီ၊ သချာညီ၊ ရှစ်လီ ခြား အကွာ။

၂၇၁။ ဘင်,ပြာ,လက်,သန်၊ အစဉ်ရံ၊ လေးတန် ဥဿဒါ။

၂၇၂။ ဘင်,ပြာ,လက်,သန်၊ မြစ်အရံ၊ ငါးတန် တနည်းမှာ။

၂၇၃။ ငရဲ, တိရိစ်၊ ပြိတ်, အသုရာ၊ ဤလေးဖြာ၊ အောက်ရွာ ပါယ်ဘူမိ။

၂၇၄။ လူ, စ, တာ,ယာ၊ တုသ်, နိမ္မာ၊ ဝသာ ပြည် ဝတ္တိ။

၂၇၅။ လေးသောင်း နှစ်ထောင်၊ အကွာဆောင်၊ လူ့ ဘောင် ဆင့်ဆင့်သိ။

၂၇၆။ သုဂတိ သတ်၊ ပါယ်လေးရပ်၊ ကော် ၁ ဒသ် ကာဘူမိ။

ကာမ ၁၁-ဘုံ ပြီး၏။

------------

၁-ကော်-ကို အစ်-ဟုဖတ်ပါ

## ရူပ ၁၆-ဘုံ

၂၇၇။ ပါရိသဇ္ဇာ၊ ရောဟိကာ၊ မဟာဗြဟ္မာ တြိ။

၂၇၈။ ပရိတ္တာဘာ၊ ပမာဏာ၊ ဘဿာ ဘုံတြိ။

၂၇၉။ ရိတ္တာသုဘာ၊ ပမာဏာ၊ ကိဏှာ ဘုံတြိ။

၂၈၀ ဖလာ ဝေဟပ်၊ သညသတ်၊ နှစ်ရပ် တပြင်သိ။

၂၈၁။ အဝိဟ်, အတပ်၊ သုဒဿာ, ဿီ၊ အကနိ၊ ငါးလီ ဘုံသုဒ္ဓိ။

ရူပ ၁၆- ဘုံ ပြီး၏။

------------

## အရူပ ၄-ဘုံ

၂၈၂။ အာကာ, ဝိည၊ အာကိဉ္စ၊ နေဝ အရူပိ။

၂၈၃။ ငါးသန်း ငါးသိန်း၊ ရှစ်ထောင်ချိန်း၊ ခြားကိန်း ဆင့်ဆင့်သိ။

၂၈၄။ ကုဋေ ခုနစ်၊ သန်းမှာ တစ်၊ သိန်းရှစ်, သောင်း ပဉ္စာ။

၂၈၅။ ထောင်မှာကား ဆ၊ လူ-နေဝ၊ ဝေးလှယူဇနာ။

၃၁-ဘုံ ဝေဘန်ခန်း ပြီး၏။

-----------

## ပဋိသန္ဓေခန်း

၂၈၆။ ဉ. သန္တိရိ၊ အကု. ဝိ၊ သန္ဓိ အပါယ်ရွာ။

၂၈၇။ ကု, ဝိ ဉ သန်၊ လူယုတ်ကြန်၊ နတ်ထံ ဘုန်းမဲ့ စွာ။

၂၈၈။ ရှစ် မဟာဝိ၊ သုဂတိ၊ သန္ဓိ ခုနစ်ရွာ။

၂၈၉။ မဟဂ္ဂုတ၊ ဝိပါက၊ ပြဟ္မသန္ဓိ သာ။

၂၉၀။ ကလာပ် ဇီဝိ၊ ရုပ်သာရှိ၊ သန္ဓိ အသညာ။

၂၉၁။ ဘဝ တစ်ခု၊ သန်, ဘွင်, စု၊ သုံးခု ထပ်စမြဲ။

၂၉၂။ ဘုံ, ဇာတ်, သံ, သင်၊ အာ, ငါးအင်၊ သန်, ဘွင်, စုမကွဲ။

ပဋိသန္ဓေခန်း ပြီး၏။

-----------

## နတ်သက်

၂၉၃။ လူ, ဘူမဇိုဝ်း၊ ပါယ်လေးမျိုး၊ သက်ဇိုဝ်း မြဲမရှိ။

၂၉၄။ ငါးဆယ် နှစ်သာ၊ လူတို့ရွာ၊ စ-မှာ တစ်ရက် သိ။

၂၉၅။ ရက်သုံးဆယ် လ၊ ဆယ့်နှစ်လ၊ စ-မှာ တစ်နှစ် ရှိ။

၂၉၆။ ငါးရာ ထိုနှစ်၊ သက်တမ်းဖြစ်၊ လူနှစ် ကိုးသန်း တိ။

၂၉၇။ အနှစ်တစ်ရာ၊ လူတို့ရွာ၊ တာမှာ တစ်ရက် သိ။

၂၉၈။ သူ့ရက်,လ,နှစ်၊ အစဉ်ဖြစ်၊ တာ,နှစ် တစ်

ထောင်ရှိ။

၂၉၉။ ဉာဏ်နည်းနှင်နှင်၊ လေးဆ တင်၊ ထက်ခွင် ဘုံ ဇိဝိ။

နတ်သက်ပြီး၏။

-----------

## ရူပဗြဟ္မာသက်

၃၀၀။ အာယု, အန္တရာ၊ အသင်္ချာ၊ မဟာ, လေးမျိုး ကပ်။

၃၀၁။ သံ, ဝိဝဋ္ဋ တွင်၊ ဌာယီ ယှဉ်၊ သင်္ချေ လေးလီ မှတ်။

၃၀၂။ ပျက်, တည်, ဖြစ်, တည်၊ အစဉ်လည်၊ လေးမည် အနက်ဟပ်။

၃၀၃။ သင်္ချေလေးဖြာ၊ အပေါင်းမှာ၊ မဟာ ကမ္ဘာ မှတ်။

၃၀၄။ မီးခုနစ်တန်၊ ရေ တစ်တန်၊ ရှစ်ပြန် ဆုံး လေ ခါတ်။

၃၀၅။ ပ, ဒု, တ, ထွေ၊ စျာန်ဘုံဝွေ၊ မီး, ရေ, လေ နယ်မှတ်။

၃၀၆။ ဇာတိ အာဏာ၊ ဝိသယာ၊ သုံးဖြာ လောက ခါတ်။

၃၀၇။ သောင်း, သိန်း, ကုဋေ၊ အသင်္ချေ၊ သုံးထွေ

အစဉ်ဟပ်။

၃၀၈။ ဖြစ်ပျက် နှစ်ဖြာ၊ အတူမှာ၊ အာကာခေတ် ဟုမှတ်။

၃၀၉။ ကပ် အန္တရ၊ ဇော်ိ ဝိသ၊ ဖြုပ်ပါရိသက်။

၃၁၀။ ကပ် အန္တရ၊ ဗာတ္တိသ၊ ဖြပ်ပုရောသက်။

၃၁၁။ ခြောက်ဆယ့်လေးဖြာ၊ သင်္ချေယျာ၊ မဟာ ဖြုပ်ဘာသက်။

၃၁၂။ နှစ်, လေး, ရှစ်, သာ၊ ကပ်မဟာ၊ သုံးဖြာ ဒုဘုံ သက်။

၃၁၃။ ရှစ်ကမ္ဘာတွင်၊ ထမ်းပိုးတင်၊ သုံးခွင် တ-ဘုံ သက်။

၃၁၄။ ဝေဟပ်, သညာ၊ ကပ်ငါးရာ၊ သုဒ္ဓါ ထမ်းပိုး တက်။

ရူပဖြုပ်ဘာသက် ပြီး၏။

----------

အရူပဖြုပ်ဘာသက်

၃၁၅။ နှစ်သောင်း, လေးသောင်း၊ ခြောက်သောင်း တလှစ်၊ ရှစ်သောင်း လေးထောင်၊ သချ်ာ ဆောင်၊ အခေါင် ဘုံ ဘဝဂ်။

အရူပဖြုပ်ဘာသက် ပြီး၏။

---

၁-ဇော်-ကို အစ်ဟုဖတ်ပါ

## ကိစ္စအပြား ကံလေးပါး

၃၀၆။ ပဋိသန္ဓိ၊ ပဝတ္တိ၊ ဝိပါက် ကဋတ္တာ။

၃၁၇။ ဖြစ်ပွားစေမှု၊ ကျေးဇူးပြု၊ ကုံ့ ကု ဇနကာ။

၃၁၈။ ထောက်ပံ့သမှု၊ ကျေးဇူးပြု၊ ဥပတ္ထမ္ဘကာ။

၃၁၉။ နှိပ်စက် ညှဉ်းပန်း၊ ညှိုးနွမ်းစေမှု၊ ဖိစီးပြု၊ ဥပပီဠကာ။

၃၂၀။ ပြတ်ဆုံးစေမှု၊ အတင်းပြု၊ ဥပဃာတကာ။

ကိစ္စအပြား ကံလေးပါး ပြီး၏။

---

## ပါကဒါနပရိယာယအပြား ကံလေးပါး

၃၂၁။ ကံတစ်ပါးတို့၊ မတားနိုင်ရာ၊ အားကြီးစွာ၊ သညာ ဂရုက။

၃၂၂။ သေဆုံးလုမှ၊ ပြုသော်လည်းကောင်း၊ အဟောင်း ပေါ်လာ၊ ကံနှစ်ဖြာ၊ သညာ အာသန္န။

၃၂၃။ နေ့ရှည်လေ့ကျက်၊ ရက်ရှည် စွဲမြဲ၊ အထုံသဲ၊ ခေါ်မြဲ အာစိဏ္ဏ။

၃၂၄။ သုံးပါးမှလျှင်၊ အလွတ်ထင်၊ သညာ ကဋတ္တာ။

ပရိယာယအပြား ကံလေးပါး ပြီး၏။

---

## ကာလအပြားကံလေးပါး (ပါကဋ္ဌာနကံ ၄-ပါး)

၃၂၅။ ဒိဋ္ဌဓမ္မ၊ ဥပပဇ္ဇ၊ ပရာပရိ၊ အဟောသိ၊ ရှိသည်
ကံလေးဖြာ။

၃၂၆။ မျက်မှောက်ဘဝ၊ အကျိုးရ၊ ဒိဋ္ဌ ဇောဦးသာ။

၃၂၇။ ခြားမဲ့ဘဝ၊ အကျိုးရ၊ ဥပ ဆုံးဇောသာ။

၃၂၈။ ပရံပရ၊ အနမတက်၊ အဆက်ဆက်ဝယ်၊
အကျိုးကြွယ်၊ အလယ် ဇောငါးဖြာ။

၃၂၉။ ကံ အဟောသိ၊ ကျိုးမရှိ၊ တြိ စေတနာ။

ကာလအပြား ကံလေးပါး ပြီး၏။

------------

## ဒုစရိုက် ၁၀-ပါး

- ကာယဝိညတ်ရုပ်သည် ကာယဒွါရ မည်၏၊
- ဝစီဝိညတ်ရုပ်သည် ဝစီဒွါရ မည်၏၊
- ဇောစိတ်သည် မနောဒွါရ မည်၏၊
- ကာယဒွါ၌ ဖြောက်သောကံသည် ကာယကံ မည်၏၊
- ဝစီဒွါရ၌ ဖြောက်သောကံသည် ဝစီကံ မည်၏၊
- မနောဒွါရ၌ ဖြောက်သောကံသည် မနောကံ မည်၏၊
- ပါဏာတိပါတ, အဒိန္နာဒါန်, ကာမေသုမိစ္ဆာစာရ, မုသာဝါဒ, ပိသုဏာဝါစာ, ဖရုသဝါစာ, သမ္ဖပ္ပလာပ,

အဘိဇ္ဈာ, ဗျာပါဒ, မိစ္ဆာဒိဋ္ဌိ။

၃၃၀။ သက်သတ်, ခိုးမှု ကာမေသု၊ သုံးခု ကာယကံ။

၃၃၁။ မုသာ, မိတ်ခွဲ၊ ဆဲရေး, ပြိန်ဖျင်း၊ အပါယ်ချဉ်း၊ လေးသင်း ဝစီကံ။

၃၃၂။ သူ့ပိုင်နက်ကို၊ ကိုယ်ဘက် ညွှတ်စေ၊ အသေ တောင့်တ၊ ပါပဒိဋ္ဌိ၊ အယူငြိ၊ တြိ မနောကံ။

၃၃၃။ ကိုယ်တိုင်, တိုက်တွန်း၊ ချီးမွမ်း, စိတ်တူ၊ ပွားပြုန်မှု၊ မှတ်ယူ လေးဆယ်ကံ။

သုစရိုက် ၁၀-ပါး

- ပါဏာတိပါတာ ဝေရမဏီ,
- အဒိန္နာဒါနာ ဝေရမဏီ,
- ကာမေသုမိစ္ဆာစာရာ ဝေရမဏီ,
- မုသာဝါဒါ ဝေရမဏီ,
- ပိသုဏာဝါစာ ဝေရမဏီ,
- ဖရုသဝါစာ ဝေရမဏီ,
- သမ္ဖပ္ပလာပါ ဝေရမဏီ,
- အနဘိဇ္ဈာ, အဗျာပါဒ, သမ္မာဒိဋ္ဌိ။

၃၃၄။ ကာ-ဒု သုံးပါး၊ ကြဉ်ရှောင်ငြား၊ သုံးပါး ကာယကံ။

၃၃၅။ နှုတ်-ဒု လေးပါး၊ ကြဉ်ရှောင်ငြား၊ လေးပါး ဝစီကံ။

၃၃၆။ အနဘိဇ္ဈာ၊ အဗျာပါဒနှင့်၊ သမ္မာဒိဋ္ဌိ၊ ဖြောင့်မှန်သိ၊ တြိ-မနောကံ။

## ပုညကိရိယာ ဝတ္ထု ၁၀-ပါး

ဒါန, သီလ, ဘာဝနာ, အပစာယန, ဝေယျာဝစ္စ, ပတ္တိဒါန, ပတ္တာနုမောဒန, ဓမ္မသဝန, ဓမ္မဒေသနာ, ဒိဋ္ဌိဇုကမ္မ။ (ပုညကိရိယာဝတ္ထု ၁၀-ပါး )

၃၃၇။ ဒါ, သီ, ဘာ, ပူ၊ ကြောင့်ကြမှုနှင့်၊ အလှူဝေငှ၊ အမျှသာဓု၊ သူ့တရားနာ၊ သိရာပြောဆို၊ ကံကိုကိုးရိုး၊ ဆယ်မျိုးဝတ္ထု၊ ပုညမှု၊ သုခ ပွားများရန်။

၃၃၈။ ပုဗ္ဗာ, မုဉ္စ၊ ပရ ကြည်စွာ၊ စေတနာ၊ သုံးဖြာ သီးသီးဖန်။

၃၃၉။ ငါးပါး, ဆယ်ပါး၊ နိစ္စထား၊ ရှစ်ပါး ဥပုသ်ကံ။

၃၄၀။ မဟာဂ် ကိုးဖြာ၊ ဘာဝနာ၊ အပ္ပနာ မနောကံ။

ကံ ဝေဘန်ခန်း ပြီး၏။

----------

## ကာမကုသိုလ် အကျိုး

၃၄၁။ ဥဒ်-စေ, ကြဉ်လစ်၊ ကံ ဆယ့်တစ်၊ ဖြစ်စေ ပါယ်သန္ဓိ။

၃၄၂။ ဥဒ္ဒစ္စ ပါ၊ ဆယ့်နှစ်ဖြာ မူ၊ တာမေ, ရှုပေ၊ ပဝတ္တေ၊ ဖြစ်စေ အကုဝိ။

၃၄၃။ ကာ-ကုရှစ်သာ၊ ကာသု မှာ၊ ကိုးဖြာ သုသန္ဓိ။
၃၄၄။ ဝိပါက် မဟာ၊ ကာသု မှာ၊ ကာ, ရူ-ရှစ် ကုဝိ။
၃၄၅။ ဟိတ် ဥက္ကဋ္ဌ၊ ဩမကာ၊ နှစ်တန် ခွဲဝေသိ။
၃၄၆။ သုကုသလ်၊ ရှေ့နောက်ရံ၊ ထက်သန် ဥက္ကဋ္ဌ။
၃၄၇။ အကုသလ်၊ ရှေ့နောက်ရံ၊ ယုတ်ပြန် ဩမက။
၃၄၈။ တိ-ဥက် တိဝိ၊ လေးသန္ဓိ၊ ပဝတ္တိ ဆယ့်ခြောက်သာ။
၃၄၉။ တိဩ-ဒွိဝိ၊ လေးသန္ဓိ၊ ပဝတ္တိ ဆယ့်နှစ်သာ။
၃၅၀။ ဒွိဥက်-ဒွိဝိ၊ လေးသန္ဓိ၊ ပဝတ္တိ ဆယ့်နှစ်သာ။
၃၅၁။ ဒွိဩ-ကုဝိ၊ သန်-သန္ဓိ၊ ပဝတ္တိ ကုရှစ်သာ။
၃၅၂။ ဆယ့်ခြောက် လေးလီ၊ လေး လေးလီ၊ အညီ တိဥက်မှာ။
၃၅၃။ တိဩ-ဒွိဥက်၊ လေး ရှစ်သုတ်၊ ရှစ်သုတ် ဆယ့်နှစ်သာ။
၃၅၄။ ရှစ်ခု လေးလီ ၊ တစ် လေးလီ၊ အညီ ဒွိဩမှာ။
၃၅၅။ ကံ, ဝိ, နှစ်ဆူ၊ အ, သ, မူ၊ အတူ ကေစိ ဝါ။

ကာမကုသိုလ် အကျိုးပြီး၏။

----------

## မဟဂ္ဂုတ်ကုသိုလ် အကျိုး

၃၅၆။ ဟီနံ, မဇ္ဈိ၊ ပဏီတံ၊ သုံးချာန် ကိုယ်စီပြု။
၃၅၇။ ဆန်, ဝီ, စိတ်, မံ၊ သုံးမျိုးဖန်၊ သုံးချာန်

ကွဲပြားမှု။

၃၅၈။ နာမ်ပျောက်ကင်းစေ၊ ဆုပန်ထွေ၊ သညေ ရုပ်အစု။

၃၅၉။ ဣန္ဒြေ ငါးတန်၊ အစဉ်လွန်၊ငါးတန် သုဒ္ဓါစု။

၃၆၀။ ဖြဟ္မပြည်မှာ၊ အရိယာ၊ အောက်ရွာ ဆင်းမရှိ။

၃၆၁။ သုဒ္ဓါဘုံမှာ၊ အရိယာ၊ နှစ်ခါ ထပ်မရှိ။

၃၆၂။ ဝေ, နေ, အက၊ သုံးဌာနမှာ၊ အရိယာ၊ သွားရာ ဘုံမရှိ။

မဟဂ္ဂုတ်ကုသိုလ်အကျိုး ဝေဘန်ခန်း ပြီး၏။

-----------

### မရဏ ၄-ပါးနှင့် အာရုံ နိမိတ်များ

အာယုက္ခယ, ကမ္မက္ခယ, ဥဘယက္ခယ, ဥပစ္ဆေဒက။ (မရဏလေးပါး)

၃၆၃။ အသက်တန်း ကုန်၊ ကံစွမ်း ကုန်နှင့်၊ အကုန် နှစ်မျိုး၊ ကံဆိုးဖြတ်ချေ၊ သေမြဲပေ၊ လေးထွေ မရဏံ။

၃၆၄။ အကုသိုလ်နှင့်၊ ကုသိုလ် ကမ္မ၊ ဇနက၊ ခွင့်ရ ရှေးရှုကံ။

၃၆၅။ ကံမြောက်ကြောင်းဟူ၊ ဆောက်အဦ၊ မှတ်ယူ နိမိတ္တံ။

၃၆၆။ လားရာဂတိ၊ ထိုမှာရှိ၊ ဂတိ နိမိတ္တံ။

၃၆၇။ ထိုသုံးပါးတွင်၊ တအင်အင်၊ ထင်မြဲ ထုံးအမှန်။

၃၆၈။ ထင်လာတုံက၊ ထိုအာရုံထဲ၊ တဝဲဝဲ၊ စွဲမြဲ စိတ်သန္တာန်။

၃၆၉။ ကံအာရုံမှာ၊ အတိတ်သာ၊ ထင်ရာ မနောတည်း။

၃၇၀။ ကမ္မနိမိတ်၊ အတိတ်လွန်လေ၊ ပြားခြောက်ထွေ၊ ထင်လေ မနောတည်း။

၃၇၁။ ယင်းနိမိတ္တံ၊ ပစ္စုပ္ပန်၊ ခြောက်တန် ဆဒ္ဒါရ။

၃၇၂။ ဂတိခြောက်တန်၊ ပစ္စုပ္ပန်၊ ထင်ရန် ဆဒ္ဒါရ။

အာရုံ ဝေဘန်ခန်း ပြီး၏။

----------

## ပဋိသန္ဓေခန်း

၃၇၃။ တဒါ ဘွင်- စု၊ တဒါ စု၊ နှစ်ခု တိမဟန္တ။

၃၇၄။ ဇော ဘဝင်စု၊ ဇောနှင့်စု၊ နှစ်ခု မဟန္တ။

၃၇၅။ မနောဒွါမူ၊ ထိုနည်းတူ၊ ဝိဘူ နှစ်ခုရ။

၃၇၆။ ဘဝင်သုံးတန်၊ အာဝဇ္ဇန်၊ ဝိညာဏ် ဒွေပဉ္စပ်။

၃၇၇။ သံ, သန်, ဝုဋ္ဌော၊ ဇော ငါးဖြာ၊ တဒါ နှစ်ကြိမ်မှတ်။

၃၇၈။ ဘဝင် ကော၊ စုတိကျ၊ ဘဝ အဆုံးသတ်။

၃၇၉။ အပြစ်ဖုံးကာ၊ အဝိဇ္ဇာ၊ တဏှာ ညွတ်စေမူ။

၃၈၀။ ကံသင်္ခါရ၊ ဇနက၊ ပစ်ချ ဖြစ်စေမူ။

၃၈၁။ အကြောင်းသုံးဖေါ်၊ ညီစေဆော်၊ ဖြစ်ပေါ် သန္ဓိစု။

၃၈၂။ သန္ဓိ အပွါး၊ ဘဝင်သွား၊ ဆယ့်ငါး ဆယ့်ခြောက်ခု။

၃၈၃။ ဘဝင်နှစ်တန်၊ အာဝဇ္ဇန်း၊ နိကန် ဇောခွန်ခု။

၃၈၄။ ထို့နောင် ဘဝင်၊ အများပင်၊ အစဉ် သိစေမှု။

ပဋိသန္ဓေခန်းပြီး၏။

---

၃၈၅။ ဒု, သု, ဒွိဟု၊ စုတိနောက်ဝယ်၊ သန္ဓိခြယ်၊ တစ်ဆယ် ကာမသော။

၃၈၆။ တိဟိတ်ဝိပာ်၊ စုတိနောက်ဝယ်၊ သန္ဓိခြယ်၊ နှစ်ဆယ် အကုန်ပေါ။

၃၈၇။ ငါး ရူပဝိ၊ စုတိနောက်ဝယ်၊ သန္ဓိခြယ်၊ ဆယ့်ခွန် ဟေတုကော။

၃၈၈။ အရူပဝိ၊ စုတိမှနောက်၊ အောက် အရူ, ရူ ဒု, သု, ဒွိပစ်၊ ရှစ်, ခွန်, ခြောက်, ငါး၊ အစဉ်အား၊ နှောင်းပြား သန္ဓိသော။

- တစ်ရာ့နှစ်ဆယ်၊ ကဗျာခြယ်၊ ဤဝယ် ဘုံပိုင်းပြီး။

ဘုံပိုင်း ပြီး၏။

---

## ၆-ရုပ်ပိုင်း

### ရူပ သမုဒ္ဒေသ

နိပ္ဖန္နရုပ် -၁၈

၃၈၉။ ပ, အာ, ဝါ, တေ၊ မြေ, ရေ, လေ, မီး၊ လွန်ပွါးစီး၊ ဘုတ်ကြီး စတုက္က။

၃၉၀။ ခက်မာ, ဖွဲ့စေး၊ ပူအေး, ထောက်ကန်၊ ဤလေးတန်၊ မှတ်ရန် လက္ခဏာ။

၃၉၁။ စက်, သော, ဃာ, ဇိ၊ ကာ, ငါးလီ၊ အကြည် ပသာဒ။

၃၉၂။ ရူ, သဒ်, ဂန်, ရံ၊ ဖောဋ္ဌဗ္ဗ၊ ငါးတန် ဂေါစရ။

၃၉၃။ ဣတ္ထိ, ပုမ၊ ဘာဝ နှစ်တန်၊ ဟဒယ်၊ တဖန် ဇီဝိတ။

၃၉၄။ ကဗဠီကာ၊ ရုပ်သြဇာ၊ သချာ ဆဲ့ရှစ်ရ။

၃၉၅။ ကြောင်း စတုကြောင့်၊ ဖြစ်မှု ပေါ်လော၊ သဘောသီးသီး၊ ကိုယ်စီပြီး၊ ရုပ်ကြီးနိပ္ဖန္န။

နိပ္ဖန္နရုပ် ၁၈-ပြီး၏။

-----------

### အနိပ္ဖန္နရုပ် ၁၀

၃၉၆။ ကလာပ်ခြားမျှ အာကာသတည့်၊ ကာယ, ဝစီ၊ နှစ်လီ ကိုယ်, နှုတ်၊ လှုပ်မှု, ရှားမှု၊ နှစ်ခု ဝိညတ်၊ ရူပဿလဟု၊ မုဒု, ကမ္မညာ၊ ဝိကာရ

တေး၊ လေး လက္ခဏာ၊ ရုပ်ဆယ်တန်၊ အနိပ္ဖန္န
တည်း။

၃၉၇။ ဖြစ်ပေါ်, ပွါးမှု၊ ဥပစယ၊ တည်ထ သန္တတိ၊
ရင့်ဘိ ဇရာ၊ ပျက်မှာ အနိစ္စ၊ သိကြောင်းမျှ၊
လက္ခဏာရုပ် ခေါ်သတည်း။

အနိပ္ဖန္နရုပ် ၁၀ ပြီး၏။

ရူပသမုဒ္ဒေသ ပြီး၏။

--------------

## ရူပဝိဘာဂ

၃၉၈။ အဇ္ဈတ္တိကော၊ ပသာဒေ၊ ကြွင်းလေ ဗာဟိရ။
၃၉၉။ ပသာ, ဟ မူ၊ ဝတ္ထု ယူ၊ ကြွင်းမူ အဝတ္ထု။
၄၀၀။ ပသာ, ဝိညတ်၊ ဒွါရမှတ်၊ ကြွင်းလတ် အဒွါရ။
၄၀၁။ ပ, ဘာ, ဇီဝေ။ ဣန္ဒြေ၊ ကြွင်းလေ အနိန္ဒြိယ။
၄၀၂။ ပသာ, ဂေါစရ၊ ရုပ် ဒွါဒ၊ ဩဠာရိကခေါ်။
၄၀၃။ သပ္ပဋိဃ၊ သန္တိက၊ နာမ သုံးမည်ပေါ်။
၄၀၄။ ကြွင်း သောဠသ၊ သုခုမ၊ အပ္ပဋိဃူရေ။
၄၀၅။ ရုပ် ကမ္မဇ၊ ဥပါဒိန္န ပေ။
၄၀၆။ အသမ္ပတ္တ၊ ဂါဟက၊ သောတ, စက္ခု ဟူ။
၄၀၇။ ရုပ်သမ္ပတ္တ၊ ဂါဟက၊ ဃာန, ဇိ, ကာ ယူ။
၄၀၈။ မဟာဘူတ၊ ဝဏ္ဏ, ဂန္ဓာ၊ ရသော, ဇာ၊ ရှစ်ဖြာ
ဝိနိဗ္ဘော။

၄၀၉။ သန္နိဒဿန်၊ ဆင်းရုပ်၊ အကျန် အနိဒေါ။

ရူပဝိဘာဂ ပြီး၏။

-------------

## ရူပသမုဋ္ဌာန်

၄၁၀။ ကံ, စိတ်, ဥ, အာ၊ ဤလေးဖြာ၊ မှတ်ပါ သမုဋ္ဌာန်။

၄၁၁။ ကာ, ရူ, ကု, ကူ၊ တိတ်-စေ, စု၊ ကံဟု မှတ်ယူလေ။

၄၁၂။ သန္ဓိဥ မှ၊ ခဏ မစဲ၊ တစပ်ထဲ၊ အမြဲ ရုပ်ဖြစ်စေ။

၄၁၃။ အရူဘုံ ရှိ၊ စိတ်သန္ဓိနှင့်၊ ဒွိ ဝိညာဏ်၊ နိဗ္ဗာန် ဆုံးစု၊ ကြည်မှု ကြွင်းထ၊ သတ် ပဥ္စ၊ တကွ စိတ်နှင့်စေ။

၄၁၄။ ပဌမဘွင်၊ အစ တင်လျက်၊ အစဉ်မစဲ၊ ဥပါဒ် ဆဲ၊ အမြဲ ရုပ်ဖြစ်စေ။

၄၁၅။ ဇောအပ္ပနာ၊ ဣရိယာ၊ ကောင်းစွာ တည် ခိုင်စေ။

၄၁၆။ မနောဒွါရာ၊ ဇောကာမာ၊ ဘိညာ သုံးဆယ့် နှစ်။

၄၁၇။ ကာယ, ဝါစာ၊ မူအရာ၊ နှစ်ဖြာ ဝိညတ်ဖြစ်။

၄၁၈။ ဆယ့်သုံး သောမနဿ၊ ပြုံးရယ်တတ်၊ ငိုတတ်

ဒေါ- ဇော နှစ်။

၄၁၉။ အချမ်း အပူ၊ နှစ်ဆူ အဂ္ဂိ၊ တေဇော ဒွိ၊ မှတ်ဘိ ဥတုပေ။

၄၂၀။ သန္တိဋ္ဌိမှ၊ စ၍စီစဉ်၊ မိမိဋ္ဌိတိုင်း၊ ခဏတိုင်းလျှင်၊ အစဉ်မပြတ်၊ အဋ္ဌတ်, ဗဟိဒ္ဓ၊ မဆိတ်မစဲ၊ တသဲသဲ၊ အမြဲရုပ်ဖြစ်စေ

၄၂၁။ ဗဟိဒ္ဓ အဋ္ဌတ်၊ နှစ်ရပ် ဩဇာ၊ ရောမိခါဌ်၊ ဌီသို့ဆိုက်က၊ အဋ္ဌတ္တဝယ်၊ ခဏ မစဲ၊ တသဲသဲ၊ အမြဲရုပ်ဖြစ်စေ။

၄၂၂။ ပသာ, ဘာဝ၊ ဇီနှင့် ဟ၊ နဝ ကမ္မဇာ။

၄၂၃။ ဝိညတ် ဒွယ၊ စိတ္တဇ၊ သဒ္ဒ စိတ်, ဥဇာ။

၄၂၄။ လဟုတာ စု၊ ရုပ်သုံးခု၊ စိတ်, ဥ, ဩဇ ဇာ။

၄၂၅။ အဝိနိဗ္ဘို၊ အာကာသ်၊ ကံ, စိတ်, ဥ, ဩဇာ။

၄၂၆။ လက္ခဏာစု၊ ရုပ်လေးခု၊ စတုဝိမုတ်သာ။

၄၂၇။ ကေန်, နေကန်၊ ကိုး နှစ်တန်၊ ကံဇဋ္ဌာရသာ။

၄၂၈။ နှစ်ခု ဧကေန်၊ နေကန် တေရ၊ ဆဲ့ငါးမျှ၊ စိတ္တ သမုဋ္ဌာန်။

၄၂၉။ ယင်း နေကန်စု၊ ဆယ့်သုံးခု၊ ဥတု သမုဋ္ဌာန်။

၄၃၀။ တိ, စတုဇ၊ ဆယ့်နှစ်မျှ၊ ဩဇ သမုဋ္ဌာန်။

ရူပသမုဋ္ဌာန် ပြီး၏။

-----------

## ကလာပယောဇနာ

၄၃၁။ ဝိနိဗ် အဋ္ဌ၊ ဇီဝိတ၊ ဇီဝ နဝကာ။
၄၃၂။ ကြွန့်,ဟာဒယ၊ လော်းပြန်က၊ အဋ္ဌ ဒသကာ[1]။
၄၃၃။ အဝိနိဗ္ဘော်၊ ရှစ်ခုသော်၊ ခေါ်ရိုး သုဒ္ဓဋ္ဌာ။
၄၃၄။ ယင်းတွင် သဒ်, ကာ၊ စီ, သုံးဖြာ၊ လောင်းပါ လေးမူလ။
၄၃၅။ မူလ လေးမှာ၊ တာ[၂] လောင်းခါ၊ ရှစ်ဖြာ စိတ္တဇ[၃] ။
၄၃၆။ သုဒ္ဓ, သဒ္ဒ၊ တာ ယှဉ်က၊ လေးဝ ဥတုဇာ[၄]။
၄၃၇။ သုဒ္ဓနှင့် တာ၊ ဤနှစ်ဖြာ၊ အာဟာရဇတည်း[၅]။
၄၃၈။ ဥတုမူလ၊ နှစ်စည်းမျှ၊ ရသည် ဗဟိဒ္ဓါ။
၄၃၉။ နှစ်ဆယ့်သုံးပင်၊ အဇ္ဈတ်တွင်၊ ကုန်စင် ရထိုက်စွာ။

ကလာပယောဇနာ ပြီး၏

-----------

## ရူပပဝတ္တိက္ကမ

၄၄၀။ ဇလာဗုဇ၊ သံသေဒ၊ အဏ္ဍာ, ဥပပတ်။

---

၁- ကမ္မဇကလာပ် ၉-စည်း။
၂- တာ=လဟုတာစသောရုပ် ၃-ခု။
၃- စိတ္တဇကလာပ် ၈-စည်း။ ၄- ဥတုဇကလာပ် ၄-စည်း။
၅- အာဟာရဇကလာပ် ၂-စည်း။

၄၄၁။ ဇီဝိကြဉ်ထွေ၊ ကမ္မဇေ၊ သံသေ, ဩပပါ။

၄၄၂။ စက်, သော, ဃာ, ဘာ၊ ဤလေးဖြာ၊ ရံခါ ချို့ကောင်းစွာ။

၄၄၃။ ကာယ ဘာဝ၊ ဟာဒယ၊ ဂဗ္ဘ သန္ဓိမှာ။

၄၄၄။ နပုံ ဖြစ်လျှင်၊ ဘာဝကြဉ်၊ နှစ်ပင် ရသည်သာ။

၄၄၅။ ရေမြှုပ်, ခဲ,တစ်၊ ခက်မ,ဖြစ်၊ ရင့်လစ် ငါးသတ္တာ။

၄၄၆။ စက်, သော, ဃာ, ဇိ၊ ဤလေးလီ၊ ဖြစ်ပြီ ဆယ့်တစ်မှာ။

၄၄၇။ သန္ဓိ ဥမှာ၊ ကမ္မဇာ၊ ဌီမှာ ဥတုဇ[1]။

၄၄၈။ ပဘင် ဥမှာ၊ စိတ္တဇာ၊ ဟာရာ စိမ့်မျိုမှ[2]။

၄၄၉။ စ၍ ဖြစ်ပြီး၊ မီးလျှံ ရေယဉ်၊ ကဲ့အသွင်၊ အစဉ် သွားလေက။

၄၅၀။ စုတိကမ္မဇရုပ်၊ အပြိုင်ချုပ်၊ ကျန်ရုပ် သိလေကြ။

၄၅၁။ ဃာ,ဇိ, ကာ, ဘာ၊ အာဟာရဇ၊ 'သတ္တ ကလာပ်၊ ကြဉ်' 'သောဋ္ဌသ်၊ ရအပ် ရှုပမှာ'။

၄၅၂။ စက်, သော, ဟ, ဇိ၊ ဤလေးလီ၊ ဖြစ်ညီ သန္ဓိမှာ။

---

၁- ဥတုဇရုပ်စ၍ဖြစ်ခြင်း။ ၂- အာဟာရဇရုပ် စ၍ဖြစ်ခြင်း

၄၅၃။ သန္တိဌီမှ၊ ဥတုဇ[1] ပ ဘွင် စိတ္တဇာ။
၄၅၄။ သဒ္ဒ ကြဉ်ပေ၊ ဥ^ ၁ နှစ်ထွေ၊ ဇီဝေ သုံးကလာပ်။
၄၅၅။ သန္တိ, ပဝတ္တိ၊ ဆိုရိုးသိ၊ မှတ်ဘိ သညသတ်။
၄၅၆။ ဥပပတ် မှာ၊ စုတေခါ၊ ခန္ဓာ ကွင်းမရှိ။

ရူပပဝတ္တိက္ကမ ပြီး၏။

------------

## နိဗ္ဗာန်

၄၅၇။ ဒုက္ခခပ်သိမ်း၊ ချုပ်ပြတ်ငြိမ်း၊ ဇာတ်သိမ်း ပြည်နိဗ္ဗာန်။
၄၅၈။ သ ဥပါဒိ၊ သေသနိ၊ ကွင်းရှိ ငါးရပ်ခန်။
၄၅၉။ အနုပါဒိ၊ သေသနိ၊ မရှိ ငါးရပ်ခန်။
၄၆၀။ သုည, နိမိတ်၊ ပဏိဟိတ်၊ ဖြာစိတ် သုံးနိဗ္ဗာန်။
၄၆၁။ ပလိဗောဓ၊ ကြောင့်ကြ သဗ္ဗ၊ ကင်းဆိတ်ညံ၊ နိဗ္ဗာန် သုညတ။
၄၆၂။ ဘေးပေါင်း တရံ၊ မဆက်ဆံ၊ နိဗ္ဗာန် နိမိတ္တ။
၄၆၃။ တောင့်တ ပူပန်၊ မဆက်ဆံ၊ နိဗ္ဗာန် ပဏိဟိတ။
- ပိုဒ်ခုနစ်ဆယ်၊ လက်ာခြယ်၊ ဤဝယ် ရုပ်, နိဗ် ပြီး။

ရုပ်ပိုင်း ပြီး၏။

---

၁- ဥတုဇကလာပ်

## ၇–သမုစ္စည်းပိုင်း

### အကုသလသင်္ဂဟ

၄၆၄။ ကာမ, ဘဝ၊ ဒိဋ္ဌိ, အဝိဇ္ဇာ၊ ဤလေးဖြာ၊ စဉ်ကာမူလထား။

၄၆၅။ ဩဃ, ယောဂါ၊ အာသဝါ၊ သုံးဖြာ လေးစီ ပွါး။

၄၆၆။ အသေသတ်နှစ်၊ ဖွဲ့ပူးရစ်၊ မူးယစ်, စီး, ထုံ, ငြား။

၄၆၇။ အဘိဇ္ဈာကာယ၊ ဗျာပါဒ၊ ကာယ နှစ်စုံ သိ [၁]။

၄၆၈။ သီလဗ္ဗတ၊ ပြာမာသ၊ ဣဒံသစ္စာဘိ [၂]။

၄၆၉။ နီဝေသ မှု၊ ဂန္ထ စု၊ ဖုထစ် ထုံးဖွဲ့ငြိ [၃]။

၄၇၀။ အလေ့သီလ၊ ဝတ ကျင့်မှု၊ နွားခွေးတူ၊ အယူ ဝင်သုဒ္ဓိ။

၄၇၁။ ဤသာ မှန်လှ၊ ဤမှ တစ်ပါး၊ အကုန်မှား၊ စွဲငြား ဣဒံဘိ။

၄၇၂။ ကာမ, ဒိဋ္ဌိ၊ သီလဗ္ဗတ၊ အတ္တအစု၊ စွဲလမ်းမှု၊ လေးခု ဥပါဒါန်။

၄၇၃။ ကာမစ္ဆန္ဒ၊ ဗျာပါဒ၊ ထိန မိဒ္ဓမှန်။

၄၇၄။ ဥဒ္ဓစ်, ကုက္ကု၊ ဝိ, ဝိဇ်စု၊ ခြောက်ခု နီဝရဏ်။

---

၁ - ၂ - ၃ - ဂန္ထလေးပါး။

၄၇၅။ တားဆီး ကန့်ကွက်၊ ပိတ်ပင်ဖျက်၊ အနက် နီဝရဏ်။

၄၇၆။ ကာမ, ဘဝ၊ ပဋိဃ၊ မာန ဒိဋ္ဌိမှန်။

၄၇၇။ ဝိစိကိစ္ဆာ၊ အဝိဇ္ဇာ၊ သစ္စာနုသယ်။

၄၇၈။ အစဉ်စွဲကပ်၊ ငုပ်ကိန်းဝပ်၊ မျိုးခတ် နုသယ်။

၄၇၉။ ကာမ, ရူပ၊ အရူပ၊ ရာဂ ပဋိဃ်။

၄၈၀။ မာန်, ဒိဋ်, သီ, ဝိ၊ ဥဒ်, ဝိဇ္ဇိ၊ ဆယ်လီ သံယောဇန်။

၄၈၁။ ရူ, ရူ, ဥဒ်, ပစ်၊ ဘဝတစ်၊ ဣဒ်, မစ်, နည်း တစ်တန်။

၄၈၂။ ထိတ်ထောင် နှောင်ကြိုး၊ အဖွဲ့မျိုး၊ ဖွင့်ရိုး သံယောဇန်။

၄၈၃။ ဟိတ်ကြီး တြိ၊ မာန်, ဒိဋ်, ဝိ၊ ထိ, ဥဒ်, ဟိ, နောတ်, ဒသ်။

၄၈၄။ ပူပန် ညစ်ကျူ၊ နှိပ်စက်မှု၊ ဆယ်ခု ကိလေမှတ်။

၄၈၅။ ကာမ, ဘဝ၊ ဆိုသမျှ၊ လောဘ တရားကိုယ်။

၄၈၆။ သီ, ဣ, အတ် မှာ၊ ဒိဋ္ဌိသာ၊ ဘိဇ်, ဗျာ, လော, ဒေါ ဆို။

၄၈၇။ အာ, ဩ, ယော, ဂန်၊ သုံးစီမှန်၊ နှစ်တန် ဥပါကိုယ်။

၄၈၈။ ရှစ်. နီ, ခြောက်. နူ၊ ကိုး. သံ ရှု၊ ဆယ်ခု ကိုမပို။

အကုသလသင်္ဂဟ ပြီး၏။

------------

## မိဿကသင်္ဂဟ

၄၈၉။ ဟိတ်. ခြောက် အစစ်၊ ဈာ. ခုနစ်၊ ဆယ့်နှစ် မဂ္ဂင်ယူ။

၄၉၀။ ဒွါရ ငါးလီ၊ ဣတ်, ပု, ဇီ၊ မနီ[၁], ဝေ ငါးခု။

၄၉၁။ သဒ်, ဝီ, သ, မာ၊ ပဉ် လေးဖြာ၊ ဒွိဒွါ ဣန် အစု။

၄၉၂။ အနညာတိ၊ ညဿာမိ၊ အညီ, အညာဝီ[၂]။

၄၉၃။ သောတာမဂ်မှာ၊ အနညာ၊ ဆုံးမှာ အညာဝီ။

၄၉၄။ လောကုတ် အလယ်၊ ခြောက်ခုဝယ်၊ အလယ် အညိန်မှီ။

၄၉၅။ ဆိုင်ရာဌာန၊ စိုးပိုင်ကြ၊ ကိစ္စ ကိုယ်စီစီ။

---

၁-မနီ=မနိန္ဒြေ။ ဝေ=ဝေဒနာ။ ၂-ပညိန္ဒြေ ၄-မျိုး (က)လောကီသောဘနစိတ်၌ယှဉ်သော 'ပညိန္ဒြေ'၊ (ခ) သောတာပတ္တိမဂ်စိတ်၌ယှဉ်သော 'အနညာတညဿာမီတိန္ဒြေ'၊ (ဂ) အရဟတ္တဖိုလ်စိတ်၌ ယှဉ်သော 'အညာတာဝိန္ဒြေ'၊ (ဃ) အလယ်လောကုတ္တရာစိတ်ခြောက်ပါး၌ ယှဉ်သော 'အညိန္ဒြေ'။

၄၉၆။ သဒ်, ဝီ, သ, ခိ၊ ပဉ်, ဟိ, ဩတ္တပ်၊ ဟိ, နောတ္တပ်၊ ကိုးရပ်-ဗိုလ်ကြံ့ခိုင်။
၄၉၇။ ဆန်, ဝီ, စိတ်, ဝိ၊ ခိပတိ၊ မရှိ တူယှဉ်ပြိုင်။
၄၉၈။ ကဗဠီ, ဖဿော၊ မနောသဉ္စေ၊ ဝိညာဏော၊ လေးထွေ အာဟာရ။
၄၉၉။ လွန်စွာ ဆောင်မှု၊ ကျေးဇူးပြု၊ လေးခု အာဟာရ။
၅၀၀။ ပဉ္စဝိညာဉ်၊ ဈာနင် ကြဉ်၊ ဗိုလ်ကြဉ် အဝီရေ။
၅၀၁။ အဟိတ်တွင် မဂ်၊ ဗိုလ်, ဣန်, မဂ်၊ ကောင် ဝိစိကော။
၅၀၂။ ဒွိဟော, တိဟော၊ ဇော နှစ်ထွေ၊ ရစေ ခိပတိ။
၅၀၃။ ဟေတု ခြောက်လျှင်၊ ငါး ဈာနင်၊ မဂ္ဂင် ကိုးခုသိ။
၅၀၄။ ဆယ့်ခြောက် ဣန္ဒြေ၊ ဗိုလ် ကိုးထွေ၊ လေးထွေ ဟာ, ခိတိ။

မိဿကသင်္ဂဟ ပြီး၏။

------------

## ဗောဓိပက္ခိယသင်္ဂဟ

၅၀၅။ ကာ, ဝေ, စိတ်, ဓမ်၊ နုပဿန်၊ ပဋ္ဌာန် သတိလေး။

၅၀၆။ ဒုဟောင်း ပယ်ပစ်၊ ဒုသစ် မလာ၊ ဤနှစ်ဖြာ ပြုရာ လုံ့လ ဒွေး။

၅၀၇။ ကုဟောင်း မြဲလစ်၊ ကုသစ် ရငြ်၊ ဤနှစ်ဖြာ ပြုရာ လုံ့လဒွေး။

၅၀၈။ ကြောခြင်, ရိုး, ရေ၊ ကြွင်းလေစေ၊ ကုန်စေ သား အသွေး။

၅၀၉။ အသက်ကိုမျှ၊ မညှာရ၊ သမ္မပ္ပဓာန် လေး။

၅၁၀။ ပရိဉ်, ပဟာန်၊ သစ္ဆိကာ၊ ဘာဝန် ကိစ္စလေး။

၅၁၁။ ဆန်, ဝီရိယံ၊ စိတ်, ဝီမံ၊ ပြီးရန် ပါဒလေး။

၅၁၂။ သဒ်, ဝီ, သ, မာ၊ ပဉ်, ငါးဖြာ၊ မှတ်ပါ ဣန်, ဗလ။

၅၁၃။ စိတ်ကို ပိုင်နိုင်၊ မြဲကြံ့ခိုင်၊ ဆိုင်ရာ ငါးဌာန။

၅၁၄။ သတိ, ဓမ္မ၊ ဝိစယနှင့်၊ ဝီရ, ပီတိ၊ ပဿဒ္ဓိတည့်၊ မာဓိ, ဥပေက်၊ ဤခုနှစ်၊ မှတ်လစ် သမ္ဗောဇ္ဈင်။

၅၁၅။ မဂ်ဉာဏ် လေးပါး၊ ဗောဓိအား၊ လျင်လျား ပေါက်ဖို့အင်။

၅၁၆။ မဂ္ဂင် အဋ္ဌ၊ ထင်ရှားလှ၊ ဝဋ်မှ ထွက်ကြောင်း သိ။

၅၁၇။ သ, ဝီ, ဆန်, စိ၊ ပဉ်, သဒ်, မိ၊ ပိ, ပဿ်, တတ်, သင်, တီ^၁^။

၅၁၈။ ဆန်, စိတ်, ပီ,ပဿ်၊ တတ်, သင်, တီ, ဟူ၊ ဆယ်ခုမူ၊ မှတ်ယူ ဇော် ကိစ် စီ။

၅၁၉။ သဒ္ဓါကား ဒွိ၊ စိမူ စတု၊ ငါးခု ပညာ၊ ရှစ်မှာ သတိ၊ ဝီရိယ ကိုး၊ ကိစ္စမျိုး၊ တပ်ရိုးကျမ်းအညီ။

ဗောဓိပက္ခိယသင်္ဂဟ ပြီး၏။

-----------------

သဗ္ဗသင်္ဂဟ

၅၂၀။ ရုပ်, ဝေ, သဉ်, သင်၊ စိတ်ဝိညာဉ်၊ ငါးအင် ခန္ဓာမှတ်။

၅၂၁။ လောကီခန္ဓာ၊ သက်သက်မှာ၊ ဥပါဒါနက္ခန်။

၅၂၂။ ရေမြှုပ်ပမာ၊ ရုပ်ခန္ဓာ၊ ဝေ မှာ ရေပွက် ဟန်။

၅၂၃။ တံလှပ် ပမာ၊ မှတ်သညာ၊ သင်္ခါ ငှက်ပျောစံ။

၅၂၄။ မျက်လှည့်အသွင်၊ စိတ်ဝိညာဉ်၊ ငါးအင် နှစ်မဲ့ခန်။

---

၁- ဗောဓိပက္ခိယ ၃၇-ပါး၏ တရားကိုယ် -၁၅-ပါး (၁) သတိ (၂) ဝီရိယ (၃) ဆန္ဒ (၄) စိတ် (၅) ပညာ (၆) သဒ္ဓါ (၇) သမာဓိ-ဧကဂ္ဂတာ (၈) ပီတိ (၉) ကာယပဿဒ္ဓိ (၁၀) စိတ္တပဿဒ္ဓိ (၁၁) တတြမဇ္ဈတ္တတာ (၁၂) ဝိတက်-သမ္မာသင်္ကပ္ပ (၁၃-၁၄-၁၅) ဝိရတီ ၃-ပါး။

၁၂၅။ စက်, သော, ဃာ, ဇိ ကာ, မနိ၊ အကြည် ခြောက်ဒွါရ။

၁၂၆။ ရူ, သဒ်, ဂန်, ရံ ဖောဋ်, ဓမ္မ၊ ခြောက်တန် ဗာဟိရ။

၁၂၇။ စေ, သုခုမ်၊ မြတ်နိဗ္ဗာန်၊ သုံးတန် ဓမ်အရ။

၁၂၈။ ရွှာပျက်ကြီးနှယ်၊ ရှေ့ခြောက်သွယ်၊ နောက် ဝယ် တပ်ထားမြဲ။

၁၂၉။ စိတ်မနော ဇ၊ ခတ် ခွန် ဝေ၊ တွက်ရေ ခတ်ဆယ့်ရှစ်။

၁၃၀။ သတ္တ ဇီဝ၊ ကင်းစင်ပ၊ ဘာဝ တတ်တိုင်းဖြစ်။

၁၃၁။ ဒုက်, သ, နိ, မင်၊ မသွေကွက်၊ လေးချက် မှန်သစ္စာ။

၁၃၂။ စိတ်, စေ, လောကီ၊ ရုပ် ဌာဝီ၊ ဒုက်ပြီ, သ- တဏှာ။

၁၃၃။ နိမှာ-နိဗ္ဗာန်၊ အင်ရှစ်တန်၊ အမှန် မဂ္ဂသာ။

- ပိုဒ်ခုနစ်ဆယ်၊ လက်ခြယ်၊ ဤဝယ်သမုစ်ပြီး။

သမုစ္စည်းပိုင်း ပြီး၏။

-----------

၁-ယခုဝေါဟာရ"သူခိုး ဓမြ" ဟု အသံထွက်ပြောဆိုကြသည်။

## ပစ္စည်းပိုင်း

### ပဋိစ္စသမုပ္ပါဒ်

အဝိဇ္ဇာ, သင်္ခါရ, ဝိညာဏ်, နာမ် ရုပ်, သဠာယတန, ဖဿ, ဝေဒနာ, တဏှာ, ဥပါဒါန်, ဘဝ, ဇာတိ, ဇရာမရဏ, သောက, ပရိဒေဝ, ဒုက္ခ, ဒေါမနဿ, ဥပါယာသ။

၃၃၄။ မိုက်မဲစွာလှ၊ မှောင်ကြီးချ၊ မောဟ အဝိဇ္ဇာ။
၃၃၅။ အကုသိုလ်နှင့်၊ ကုသိုလ် နှစ်ထွေ၊ စေတနာ ဓမ္မ၊ ကံသုံးဝ၊ မှတ်ကြ သင်္ခါရာ။
၃၃၆။ ပုညာ, ပုည၊ အာနေဉ္ဇ၊ သုံးဝ ခွဲစိတ်ဖြာ။
၃၃၇။ သန္ဓိ, ပဝတ္တိ၊ နှစ်မျိုးရှိ၊ ဝိပါက် ဝိညာဏာ။
၃၃၈။ စေတသိက်မူ၊ နာမ်ဟု ယူ၊ ရုပ်မူကမ္မဇာ။
၃၃၉။ ဝိညာဏ်နည်းတူ၊ နှစ်မျိုးယူ၊ အတူ ယှဉ်မကွာ။
၃၄၀။ သဠာယတန၊ ခြောက်ဒွါရ၊ မန ဝိပါက်သာ။
၃၄၁။ ဝိညာဏ် ခြောက်ဝ၊ ယှဉ်တုံကြ၊ ဖဿ ဝေဒနာ။
၃၄၂။ ခြောက်ပါး အာရုံ၊ သာယာတုံ၊ ခြောက်စုံ ညစ်တဏှာ။
၃၄၃။ ကာမ, ဒိဋ္ဌိ၊ သီလဗ္ဗတ၊ အတ္တာစွဲသန်၊ ဥပါဒါန်၊ လေးတန် သရုပ်ဖြာ။
၃၄၄။ ကုသလာ, ကုသလ၊ ကမ္မပထ၊ ဤနှစ်တန်၊

ကမ္မဘဝသာ။
၅၄၅။ ဝိပါက်ခန္ဓာ၊ ကဋတ္တာဟု၊ ရုပ်နမ်စု၊ ဥပ
ပတ္တိသာ။
၅၄၆။ ဖြစ်မှု, ရင့်မှု၊ ပျက်ဆုံးမှု၊ ဥပပတ္တိမှာ။
၅၄၇။ အင်္ဂါဆယ့်နှစ်၊ သုံးဆစ်ကာလ၊ သုံးဝ အစပ်၊
လေးရပ် အလွှာ၊ ဝဋ္ဋ သုံးဖြာ၊ မှတ်ပါ မူလဒွေ။
ပဋိစ္စသမုပ္ပါဒ် ပြီး၏။

---------

## ပဋ္ဌာန်းနည်း

၅၄၈။ ဟေ, အာ, ဓိ, နန်၊ သမနန်၊ သ, အံ, နိ, ဥ,
ပူ။
၅၄၉။ ပစ်, သေ, ကံ, ပ်၊ ဟာ, ဣန်, ဈာန်၊ မဂ်, သံ,
ဝိပ္ပဟူ။
၅၅၀။ အတ်, နတ်, ဝိတ၊ အဝိတ၊ ဒွိစ ပစ္စည်းယူ။
၅၅၁။ နန်, သမနန်၊ နတ်, ဝိတန်၊ လေးတန် အတူ
တူ။
၅၅၂။ ဟိတ်. ခြောက်, ခြောက်. အာ၊ ဓိ. နှစ်ဖြာ၊
အာ. ဓိ, သ, ဓိ ခွဲ။
၅၅၃။ ဣန္ဒြ. ရုပ်နာမ်၊ အာ. ဓိ မှန်၊ လေတန် သ. ဓိ
ခွဲ။
၅၅၄။ ခြားမဲ့ ရှေ့နာမ်၊ ပစ္စည်းနာမ်၊ နောက်နာမ်

အားအမြဲ။
၅၅၅။ စိတ်, စေ,ဘုတ်, စုံ၊ ဝတ္ထုသန္ဓေ၊ ဤလေးထွေ၊ တပ်လေ သဟဇ။
၅၅၆။ စိတ်, စေ, ဘုတ်, စုံ၊ ဝတ္ထုသန္ဓေ၊ ဤလေးထွေ၊ တပ်လေ အဉ်မည။
၅၅၇။ သဟဇာတ်စုံ၊ ဝတ္ထု ပုရေ၊ ဤနှစ်ထွေ၊ တပ်လေ နိဿယ။
၅၅၈။ အာရမ္မဏူ၊ နန္တရူနှင့်၊ ပကတူပေ၊ ဤသုံးထွေ၊ ခွဲလေ ဥပနိဿယ။
၅၅၉။ အာရမ္မဏူ၊ အဓိပတူ၊ နန်မူ နန္တရ။
၅၆၀။ နာမ်ရုပ် ပညတ်၊ အဇ္ဈတ်, ဗဟိဒ္ဓါ၊ ကျယ်ဝန်းစွာ၊ သညာ ပကတူပ။
၅၆၁။ ဝတ္ထုပုရေ၊ အာပုရေ၊ နှစ်ထွေ ပုရေဇ။
၅၆၂။ ရုပ် နိပ္ဖန္န၊ ပစ္စုပ္ပန်၊ အမှန် အာပုရ။
၅၆၃။ သတ္တရှိနေ၊ ဌီရုပ်တွေအား၊ စိတ်, စေ နှစ်ဖြာ၊ နောက်နောက်လာ၊ တည်ငှါ ပစ္ဆာဇ။
၅၆၄။ ရှေ့ဇော ဇာတ်တူ၊ ကု, ဏူ, ကြိယာ၊ နန္တရာ၊ ပွားငှါ သေဝန။
၅၆၅။ သဟဇာတ၊ ခဏ နာနာ၊ စေတနာ၊ မှတ်ပါ နှစ်ကမ္မ။
၅၆၆။ သ-မှာ လုံးစုံ၊ နာနာတုံ၊ ကု, ကုန် အတိတ်ရ။

၅၆၇။ သုံးဆဲ့ခြောက်ထွေ၊ ဝိ-စိတ်, စေ၊ မှတ်လေ ဝိပါက။

၅၆၈။ ထောက်ပံ့ ခိုင်ဖွယ်၊ ကျေးဇူးကြွယ်၊ လေးသွယ် အာဟာရ။

၅၆၉။ သဟ, ပုရံ၊ ဇီဝိတံ၊ သုံးတန် ဣန္ဒြိယ။

၅၇၀။ စိတ်, ဇီ, ဝေ, ဝိ၊ သဒ်, သ, မိ၊ ပညိ နာမ် ရှစ်သ။

၅၇၁။ ဝတ္ထု ငါးလီ၊ ဝတ်ပုရီ[1]၊ ရုပ်ဇီ ဇီဝိတ။

၅၇၂။ တက်,စာ, ပီ, ဝေ၊ ဧကဂ္ဂေ၊ ငါးထွေ ရှု ဈာန။

၅၇၃။ ပဥ်, တက်, ဝိ, ကမ်၊ အာဇီဝန်၊ ဝါယာမ်, သ, မိ, ဒိဋ်[2]။

၅၇၄။ စိတ်,စေ လုံးစုံ၊ နာမ်အကုန်၊ ယှဉ်တုံ သမ္ပယုတ်။

၅၇၅။ သဟ, ပစ္ဆာ၊ ဝတ်ပုရေ၊ သုံးထွေ ဝိပ္ပယုတ်။

၅၇၆။ ရုပ်အား နာမ်က၊ ရုပ်က နာမ်အား၊ တပ်တုံ ငြား၊ နှစ်ပါး သဟထုတ်။

၅၇၇။ သ, ဝတ်, အာပူ၊ ပစ်, ဟာ, ရူ၊ ခြောက်ဆူ အတ္ထိထုတ်။

ပစ္စည်းသရုပ် ဝေဖန်ခန်းပြီး၏။

------------

၁- ဝတ်ပုရီ= ဝတ္ထုပုရေဇာတိန္ဒြိယ။

၂- မဂ္ဂပစ္စည်းထိုက်သော မဂ္ဂင်တရားကိုယ် ၉-ပါး။

## အတိတ် သက်သက် ပစ္စည်းမျိုး

၅၇၈။ သ, နိ, အတ္ထိ၊ အဝိဂတာ၊ ဤလေးဖြာ၊ မဟာ
သဟဇ။ (သဟဇာတကြီး ၄-ပါး)

၅၇၉။ အည, ဝိ, သံ၊ ဝိပ် လေးတန်၊ မဇ္ဈံ သဟဇ။
(သဟဇာတလတ် ၄- ပါး)

၅၈၀။ ဟေ, ဓိ, ဟာ, ကံ၊ ဣန်, မဂ်, ဈာန်၊ မှတ်ရန်
ငယ် သဟ။ (သဟဇာတငယ် ၇- ပါး)

၅၈၁။ သန္ဓိအခါ၊ ကမ္မဇာ၊ နောက်မှာ စိတ္တဇ။

၅၈၂။ ဝတ္ထုနှင့် သန်၊ အပြန်ပြန်၊ သုံးတန် သဟဇ။

၅၈၃။ နှစ်ဆယ့်လေးဖြာ၊ ဥပါဒါ၊ မဟာဘုတ်မှရ။

၅၈၄။ ဝတ္ထုနှင့် သန်၊ နာမ်-မဟာဘူ၊ ကလာပ် တူ၊
ယူလေ အဥ်မည။

၅၈၅။ မိမိနှင့်မူ၊ အတူဖြစ်ရန်၊ ကျေးဇူးသန်၊ အမှန်
သဟဇ။

၅၈၆။ ရုပ် အာဟာရံ၊ ဇီဝိတံ၊ မှတ်ရန် တစ်ဌာန။
(ဥပသဟဇာတ ၆-မျိုး)

၅၈၇။ ဝတ္ထုပုရေ၊ စုံခြောက်ထွေ၊ မှတ်လေ တစ်ဌာန။
(ဝတ္ထုပုရေဇာတ ၆-မျိုး)

၅၈၈။ အာရုံပုရေ၊ သုံးပါးထွေ၊ မှတ်လေ တစ်ဌာန။
(အာရမ္မဏပုရေဇာတ ၆-မျိုး)

၅၈၉။ ဝတ်-အာ-ပုရေ၊ ငါးခုထွေ၊ မှတ်လေ တစ်

ဌာန။

(ဝတ္ထာရမ္မဏပုရေဇာတ ၅-မျိုး)

၅၉၀။ ပစ္ဆာဇာတော၊ လေးပါးထွေ၊ မှတ်လေ တစ်ဌာန။

၅၉၁။ အနန္တရေ၊ ခြောက်ပါးထွေ၊ မှတ်လေ တစ်ဌာန။

၅၉၂။ ရုပ်ကမ္မဇ၊ ဝိပါက်နာမ်တို့၊ ဖြစ်ရန်နာနာ၊ ခဏိကာ၊ နှစ်ဖြာ ပစ္စယ။

(နာနာက္ခဏိက ပစ္စည်း ၂-မျိုး)

၅၉၃။ လေးခုမဂ်မှာ၊ စေတနာ၊ ခြောက်ဖြာ ပစ္စယ။

အတိတ်သက်သက်ပစ္စည်းမျိုး ပြီး၏[၁]။

------------

ကာလသုံးပါး, ကာလဝိမုတ် ပစ္စည်းမျိုး

၅၉၄။ ဆိုပြီး ကြွင်းကျန်၊ အာရမ္မဏ်၊ သုံးတန် ပစ္စည်းမျိုး။

---

၁- ဤအခန်း၌ အတိတ်သက်သက် ပစ္စည်းမျိုးများသည့် အဖြစ်ကြောင့် (ပစ္စုပ္ပန်၌ဖြစ်သော ပစ္စည်းအချို့ ပါနေသော်လည်း) အတိတ်သက်သက်ပစ္စည်းမျိုးဟု ခေါင်းတပ်လိုက်ခြင်းဖြစ်သည်။

၅၉၅။ ရှစ်လောဘမုဲ၊ မဟာကုံ၊ လေးခု ဉာဏ်
ကြိယာ။

၅၉၆။ လောကုတ် ရှစ်ခု၊ ဤစိတ်စု၊ ဂရုပြုတတ်စွာ။

၅၉၇။ ပကတူတုံ၊ အကြွင်းပုံ၊ လုံးစုံ နာမ်အားသာ။

ကာလသုံးပါး ကာလဝိမုတ်ပစ္စည်းမျိုး ပြီး၏။

---------

## ခြောက်ရာသီ ဝေဖန်ချက်

၅၉၈။ နာမ်လျှင် နာမ်အား၊ ခြောက်မျိုးပြား၊ ငါးပါး
နာမ်ရုပ်ငှါ။

၅၉၉။ နာမ်လျှင် ရုပ်အား၊ မျိုးတပါး၊ နာမ်အား
ရုပ်ကော။

၆၀၀။ ပညတ် နာမ်ရုပ်။ နာမ်အား ဒုက်၊ ဒုက်- ဒုက်
ကိုးမျိုးသာ။

ခြောက်ရာသီ ဝေဘန်ခန်း ပြီး၏။

----------

## ပစ္စည်းအားလုံး ၄-ပစ္စည်း၌ ဝင်ပုံ

၆၀၁။ အာ, ဉ, ကံ, အတ်၊ လေးရပ် ဤတွင်၊
အကုန်ဝင်၊ ကုန်စင် ခွဲစိတ်ဖြာ။

ပစ္စည်းခန်း ပြီး၏။

## အတ္ထပညတ်, နာမပညတ်

၆၀၂။ နက်, နာမ်-ပညတ်၊ နှစ်ပါးမှတ်၊ ခေါ်အပ်
ခေါ်ကြောင်းသိ။

၆၀၃။ တဇ္ဇာ, ပါဒ်၊ သမူဟံ သဏ္ဍာန်, သန္တတိ။

၆၀၄။ ကာလံ, အဒ္ဓါ၊ အာကာသံ၊ ဒိသံ, ဒေသာဒိ။

၆၀၅။ အဝိဇ္ဇမာန်၊ ဝိဇ္ဇမာန်၊ နာမ်၌ နှစ်ပါးသိ။

၆၀၆။ ပုဒ်ချင်းတစ်ဖန်၊ တွဲယှက်ပြန်၊ နာမ်၌ ခြောက်
ပါးရှိ။

၆၀၇။ အတ္ထံ, နာမံ၊ ဂဟဏံ၊ ဝဒန် စဉ်တိုင်းသိ။

၆၀၈။ နာမံ, အတ္ထံ၊ ဂဟဏံ၊ သုဏာန် စဉ်တိုင်းသိ။

၆၀၉။ ဝိညတ် အလို၊ နှစ်ပါးကို၊ ထိုနှင့် ဆိုင်ရာထည့်။

၆၁၀။ စိတ်, စေတသိက်၊ ရုပ်, နိဗ် လေးရပ်၊ ပရမတ်
သစ္စာ၊ ပညတ်မှာ၊ သစ္စာ သမ္မုတိ။

ပိုဒ်ပေါင်း ရှစ်ဆယ်၊ လက်ခြယ်၊ ဤဝယ် ပစ္စည်းပြီး။

ပစ္စည်းပိုင်းပြီး၏။

------------

## ၉ - ကမ္မဋ္ဌာန်းပိုင်း

သီလဝိသုဒ္ဓိ, စိတ္တဝိသုဒ္ဓိ, ဒိဋ္ဌိဝိသုဒ္ဓိ, ကင်္ခါဝိတရဏ
ဝိသုဒ္ဓိ, မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိ, ပဋိပဒါဉာဏ

ဒဿနဝိသုဒ္ဓိ, လောကုတ္တရဉာဏဒဿနဝိသုဒ္ဓိ။
(ဝိသုဒ္ဓိ ၇-ပါး )

## သီလဝိသုဒ္ဓိ

၆၁၁။ အဓိသီလ၊ စိတ္တ, ပညာ၊ သာသနာ၊ သိက္ခာ သုံးပါးမှတ်။

၆၁၂။ အာဒိဗြဟ္မ၊ စရိယနှင့်၊ ထိုမှတစ်၊ အဘိသမာစာရိက၊ ဤနှစ်ဝ၊ သီလ သာသနာ။

၆၁၃။ အာဇီဝဋ္ဌ၊ အကျဉ်းပြ၊ ဗြဟ္မ အာဒိသာ။

၆၁၄။ ကာယ သုံးလီ၊ လေး ဝစီ၊ အာဇီ ရှစ် သမ္မာ။

၆၁၅။ ကျင့်ဝတ် ခုတင်၊ အမွမ်းတင်၊ ဖြူစင် ဘိသမာ။

၆၁၆။ ပါတိမောက္ခ၊ သံဝရနှင့်၊ ဇီဝပါရိ၊ သုဒ္ဓိ တစ်လစ်၊ ပစ္စယသန်၊ နိဿိတံတည့်၊ ခြောက်တန်ဣန္ဒြေ၊ လုံခြုံစေမှု၊ သုဒ္ဓိစု၊ စတုလေးလီဖြာ။

သီလဝိသုဒ္ဓိ ပြီး၏။

---

## စိတ္တဝိသုဒ္ဓိ

### ကမ္မဋ္ဌာန်း- ၄၀

၆၁၇။ မြေ, ရေ, မီး, လေ၊ ညို, ရွှေ, နီ, ဖြူ ပေါက်[၁], လင်း[၂] ဟူ၊ ဆယ်ဆူ ကသိဏာ။

---

၁-ပေါက်=အာကာသ။ ၂-လင်း=အာလောက။

၆၁၈။ ရောင်, ညို, ပြည်, ပြတ်၊ ခဲအပ်, ပစ်ထား၊ ဓားဖြတ်ပစ်ရေး၊ သွေးယို, ပိုးစု၊ အရိုးစု၊ ဆယ်ခု အသုဘာ။

၆၁၉။ ဗုဒ်, ဓမ်, သံ, သီ၊ စာဂီ, ဒေဝတာ၊ သမာ-ဥပ၊ မရဏာနှင့်၊ ကာယဂတာ၊ အာနာပါ၊ ဆယ်ဖြာ နုဿတိ။

၆၂၀။ မေ, က, မု, ဥ၊ ပွားများမှု၊ လေးခု ပမညာ။

၆၂၁။ အာဟာရတွင်၊ ရွံဘွယ်လျှင်၊ မှတ်ထင် ဧကံ သညာ။

၆၂၂။ ဓာတ်ကြီးလေးခု၊ ပိုင်းခြားမှု၊ စတု ဝဝတ္ထာ။

၆၂၃။ အာ, ဝိဉ်, အာ,နေ၊ ဤ လေးထွေ၊ မှတ်လေ အရူပါ။

ကမ္မဋ္ဌာန်း ၄၀- ပြီး၏။

--------------

## သပ္ပါယအပြား

၆၂၄။ ရာ, ဒေါ, မော, ဝိ၊ သဒ်, ဗုဒ္ဓိ၊ စရိ ဤ ခြောက်ဖြာ။

၆၂၅။ အသု, ကာယ၊ ဆယ့်တဝ၊ ရာဂ လျော်လှစွာ။

၆၂၆။ အဆင်း, မညာ၊ ရှစ် ဌာန၊ ဒေါသ လျော်လှစွာ။

၆၂၇။ အာနာပါန၊ အလျော်ကျ၊ မောဟ, ဝိတက် သာ။

၆၂၈။ မရဏာနှင့်၊ ဥပသမာ၊ သညာ တစ်ဖန်၊
ဝဝတ္ထာန်၊ လေးတန် ဗုဒ္ဓိသာ။
၆၂၉။ နုဿတိ ဆ၊ သဒ္ဓါ ကျ၊ သေသ အားလုံးသာ။
၆၃၀။ ကသိုဏ်းကြီးမူ၊ မောဟာယူ၊ ငယ်မူ ဝိတက်
သာ။

သပ္ပါယအပြား ပြီး၏။

---

## နိမိတ် အပြား

၆၃၁။ ပရိကမ္မ၊ ဥဂ္ဂဟတည့်၊ ပဋိဘာဂ၊ ဤ သုံးဖြာ၊
ထင်လာ နိမိတ်တည်း။
၆၃၂။ လေးဆယ်လုံးမှာ၊ ရှေ့နှစ်ဖြာ၊ လျော်စွာ ရ
သတည်း။
၆၃၃။ ကသိုဏ်း, သုဘာ၊ ကာ, အာနာ၊ ပဋိ
ဘာဂတည်း။

နိမိတ်အပြား ပြီး၏။

---

## ရူပဈာန်

၆၃၄။ ပရိ, ဥပစံ၊ အပ္ပနံ၊ သုံးတန် ဘာဝနာ။
၆၃၅။ ပရိ, ဥဂ်မူ၊ ပရိ ယူ၊ ဘာ မူ ဥ, အပ် သာ။
၆၃၆။ နုဿတိ ရှစ်၊ သညာ [1]ဧက်၊ တစ်လှစ် ဝဝတ္ထာ။

၁- သညာ=အာဟာရေပဋိကူလသညာတစ်ပါး၊

၆၃၇။ ပရိ, ဥပ၊ နှစ်ခုမျှ၊ ရထိုက် ဘာဝနာ။

၆၃၈။ အကြွင်း သုံးဆယ်၊ အာရုံဝယ်၊ သုံးသွယ် ဘာဝနာ။

၆၃၉။ က, သု, ကာ, အာ၊ ပမညာ၊ ရူပါ သုံးဆယ် အပ်။

၆၄၀။ သညာ တစ်တန်၊ ဝဝတ္ထာန်၊ ရှစ်တန် နုဿတိ။

၆၄၁။ ဘာဝနာ သုံးတန်၊ ဖြစ်ပွားဟန်၊ မှတ်ရန် ဤသို့တည့်။

၆၄၂။ ပရိ အစ၊ ဥဂ္ဂဟ အလယ်၊ နှစ်သွယ် ရှုဘိ၊ သမာဓိ၊ ပရိကမ္မသာ။

၆၄၃။ ပဋိဘာဂ၊ ထင်လာက၊ နီဝရဏကွာ။

၆၄၄။ နီဝရဏ၊ ကွာတုံက၊ ဥပစာရလာ။

၆၄၅။ ထိုနောက် ဖန်ဖန်၊ ပွါးတုံပြန်၊ ပ-စျာန် အပ္ပနာ။

၆၄၆။ အာဝဇ္ဇန်၊ အာပဇ္ဇန်[၁]၊ ဓိဋ္ဌာန်, ဝုဋ္ဌာန။

၆၄၇။ ပစ္စဝေက္ခန်၊ ဤ ငါးတန်၊ လျင်မြန် လိုတိုင်းရ။

၆၄၈။ ရှေးရှေး စျာနင်၊ ပယ်စွန့်လျှင်၊ အစဉ် နောက် စျာန်ရ။

ရူပစျာန် ငါးပါး ပြီး၏။

---

၁- "အာပဇ္ဇန်" ပုဒ်မှာ "သမာပဇ္ဇန ဝသီဘော်" ကိုပင် ဆိုလိုသည်၊ သမာပဇ္ဇနကို "သံ+အာပဇ္ဇန" ဟုပုဒ်ခွဲပြီး "အာပဇ္ဇန်" ဟု ဖွဲ့ဆိုထား ခြင်းဖြစ်သည်။

## အရူပဈာန်

၆၄၉။ အာရုံ ပြောင်းကာ၊ ပွါးတုံပါ၊ လေးဖြာ အရူပ။

အရူပဈာန် ပြီး၏။

---

## အဘိညာဉ်

၆၅၀။ ဣဒ္ဓိဝိဓ၊ ဒိဗ္ဗ နှစ်ထွေ၊ စေတောပရိ၊ ပုဗ္ဗေနိဝါ၊ ယထာကမ္မူ၊ နာဂတံသ၊ ဤ သတ္တ၊ မှတ်ကြ အဘိညာ။

၆၅၁။ ပါဒကဈာန်၊ အဝိဋ္ဌာန်နှင့်၊ တဖန် ပါဒက၊ စတုတ္ထ၊ ကျတုံ အဘိညာ။

စိတ္တ ဝိသုဒ္ဓိ ပြီး၏။

---

## ဒိဋ္ဌိ ဝိသုဒ္ဓိ

၆၅၂။ လက္ခဏာနှင့်၊ ရသ နှစ်ခု၊ ပစ္စုပဋ္ဌာန်၊ ပဒဋ္ဌာန်၊ သိမ်းရန် နာမ်နှင့် ရုပ်။

၆၅၃။ လေးချက် ပိုင်ပိုင်၊ ပိုင်းခြားနိုင်က၊ သတ္တ၊ ဇီဝ၊ အတ္တ အယူ၊ ကင်းစင်ဖြူ၊ မှတ်ယူ ဒိဋ္ဌိဝိသုဒ္ဓိ။

## ကင်္ခါဝိတရဏ ဝိသုဒ္ဓိ

၆၅၄။ နာမရူပ၊ သင်္ခါရ၏၊ ပဋိစ္စခေတ်၊ သမုပ္ပါဒ်ကို၊ အတပ် ထင်ထင်၊ ပိုင်ပိုင်မြင်က၊ ကင်္ခါယုံမှား၊

ဆယ့်ခြောက်ပါးနှင့်၊ ရှစ်ပါးဝိစိ၊ ဒိဋ္ဌိ ဖြာဖြာ၊ ကင်းစင်ကွာ၊ ကင်္ခါဝိတရဏာ ဝိသုဒ္ဓိ။

**ဝိပဿနာဉာဏ် ၁၀-ပါး**

သမ္မသနဉာဏ်, ဥဒယဗ္ဗယဉာဏ်, ဘင်္ဂဉာဏ်, ဘယဉာဏ်, အာဒီနဝဉာဏ်, နိဗ္ဗိဒါဉာဏ်, မုစ္စိတုကမျတာဉာဏ်, ပဋိသင်္ခါဉာဏ်, သင်္ခါရုပေက္ခာဉာဏ်, အနုလောမဉာဏ်။

(ဝိပဿနာဉာဏ် ၁၀-ပါး။)

၆၅၅။ ခန္ဓာဒိနည်း၊ ဖွဲ့စည်းပြီးခါ၊ သုံးဖြာ လက္ခဏာ၊ သုံးသပ်ရ၊ သမ္မသနဉာဏ်။

၆၅၆။ ဖြစ်ပွါး ပျက်မှု၊ အစုံရှု၊ ဥဒယဗ္ဗယဉာဏ်။

၆၅၇။ အပျက်ကိုသာ၊ ရှုတုံပါ၊ သညာ ဘင်္ဂဉာဏ်။

၆၅၈။ အပျက်မြင်က၊ ဘယမစ္ဆု၊ ပျက်မှုခပင်း၊ ဘေးသေမင်းဟု၊ ကြောက်ခင်း ထွေထွေ၊ ရှုတုံပေ၊ မှတ်လေ ဘယဉာဏ်။

၆၅၉။ ကြောက်ဖွယ်ခပင်း၊ မြင်တုံလျှင်းက၊ ဘေးဘယမျိုး၊ ရုပ်နာမ်ဆိုး၌၊ ကိုးရာမရှိ၊ ခက်မှန်းသိ၊ အာဒီနဝဉာဏ်။

၆၆၀။ ကိုးရာမထင်၊ ခက်ပုံမြင်က၊ မရွှင်မလန်း၊ စိတ်ကုန်ခန်း၍၊ မချမ်းမမြေ့၊ ငြီးငွေ့သောထွေ၊ စိတ်အနေ၊ မှတ်လေ နိဗ္ဗိဒ်။

၆၆၁။ ငြီးငွေ့ အားသန်၊ စိတ်ပူပန်က၊ လျင်မြန်တစိ၊ လွတ်လိုဘိ၊ မုစ္စိတုကမျတာဉာဏ်။

၆၆၂။ လွတ်လိုလှ၍၊ လွတ်ရတဲ့ဌာ၊ ဘာဝနာ လေးဆယ်၊ အကျယ်ဖြန့်ချိ၊ အားတိုက်ဖိ၊ ပဋိသင်္ခါဉာဏ်။

၆၆၃။ အားတိုက်ရှု၍၊ လွတ်မှု လွတ်ရန်၊ အမြင်သန်က၊ ရုပ် နာမ်ဓမ္မ၊ သင်္ခါရဝယ်၊ မတွယ်သမှု၊ လျစ်လျူ ရှု၊ သင်္ခါရုပေက္ခာဉာဏ်။

၆၆၄။ မဂ်ရောက် လိုသော်၊ အဆော် အနှုး၊ မဂ်လေးဦးအား၊ အထူးလျော်မှု၊ ကျေးဇူးပြု၊ အနုလောမဉာဏ်။

ဝိပဿနာဉာဏ် ၁၀-ပါး ပြီး၏။

-----------

## မဂ္ဂါမဂ္ဂဉာဏဒဿနဝိသုဒ္ဓိ စသော ၃-ပါး

၆၆၅။ ဥဒယဉာဏ်၊ ရင့်သန်တုံလတ်၊ ဖြစ်လာတတ်၊ ဆယ်ရပ် အန္တရာယ်။

၆၆၆။ အရောင်, ပီတိ၊ ပဿဒ္ဓိ နှစ်ဖြာ၊ သဒ္ဓါ, ဝီရိယ၊ သုခ, ဗုဒ္ဓိ၊ နိကန္တိနှင့်၊ သတိ, ဥပေက္ခာ၊ ဤဆယ်ဖြာ၊ မှတ်ပါ အန္တရာယ်။

၆၆၇။ ထိုဆယ်ချက်တွင်၊ မဂ်အထင်ကို၊ ပယ်ထွင်ရှင်းကာ၊ အလင်းသာ၊ မဂ္ဂါမဂ္ဂဉာဏဒဿန

ဝိသုဒ္ဓိ။

၆၆၈။ ဥဒယဉာဏ်၊ တစ်ဖန်ပျိုးကာ၊ ကိုးဖြာ ဉာဏ်စဉ်၊ စခန်းထွင်၍၊ အမြင်လင်းဘိ၊ ထိုးထွင်းသိ၊ ပဋိပဒါဉာဏဒဿနဝိသုဒ္ဓိ။

၆၆၉။ သင်္ခါရုနှင့်၊ အနုလောမ၊ ဉာဏ် နှစ်ဝ၊ ဝုဋ္ဌာနဂါမိနီလည်း ခေါ်သတည်း။

၆၇၀။ ဝုဋ္ဌာနဂါမ်၊ လွန်ရင့်သန်က၊ နိဗ္ဗာန်ပေါက်ကာ၊ မဂ်ရောက်လာ၊ ဉာဏဒဿနဝိသုဒ္ဓိ။

## မဂ်တက်စဉ်

၆၇၁။ သိ, ပယ်, ဆိုက်, ပွါး၊ လေးပါး အချက်၊ တစ်ပြိုင်နက်၊ မဂ်၏ ကိစ္စတည်း။

၆၇၂။ ဒိဋ္ဌိ, ဝိစိ၊ ပယ်သတ်ဘိ၊ အာဒိ မဂ်သောတာ။

၆၇၃။ မဂ်, ဖိုလ်, နိဗ္ဗာန်၊ ပယ်ကြွင်းကျန်၊ နှစ်တန် ကိလေသာ။

၆၇၄။ အစဉ်သမ္မူ၊ အမြင်ရှု၊ ငါးခု ပစ္စဝေက္ခဏာ။

၆၇၅။ ထက်မဂ်ကိုလျှင်၊ မရောက်ခင်၊ ဖိုလ်လျှင်လည်းလျှောင်းရာ။

၆၇၆။ ကာ, ဗျာ, နှစ်ထွေ၊ အကျန်ချေ၊ ရောက်လေ သကဒါဂါ။

၆၇၇။ ကာ, ဗျာ, နှစ်ထွေ၊ အကုန်ချေ၊ ရောက်လေ အနာဂါ။

၆၇၈။ သဗ္ဗကိလေ၊ အကုန်ချေ၊ ရောက်လေ အရ-
ဟတ္တာ။

ဉာဏ်ဒဿနဝိသုဒ္ဓိခန်း ပြီး၏။

---

## ဝိမောက္ခ စသည်

အနိမိတ္တ ဝိမောက္ခ, အပ္ပဏိဟိတ ဝိမောက္ခ, သုညတ ဝိမောက္ခ။

၆၇၉။ ဝိမောက္ခ နက်၊ ကျွတ်လွတ်ချက်၊ ဖိုလ် မဂ်
မည်သညာ။

အနိမိတ္တာနုပဿနာ,
အပ္ပဏိဟိတာနုပဿနာ,
သုညတာနုပဿနာ (ဝိမောက္ခမုခ ၃-ပါး။)

၆၈၀။ ဝိမောက်မုခ၊ တံခါး၀၊ အရ လက္ခဏာ။
၆၈၁။ ဝုဋ္ဌာနဂါမိနီ၊ ဉာဏ်ဆိုက်ဘီ၊ ဝိမု နယ်အပါ။
၆၈၂။ အနိမိတ္တ၊ အနိစ္စ၊ ဒုက္ခ-ပဏိဟိတာ။
၆၈၃။ အနတ္တမူ၊ သုညယူ၊ သုံးဆူ နုပဿနာ။
၆၈၄။ ပုဂ္ဂိုလ် သတ္တဝါ၊ အင်္ဂါ ကြီးငယ်၊ ဆန်းတကြယ်၊
မှတ်ဖွယ် နိမိတ္တာ။

၆၈၅။ အကုန်နိမိတ်၊ ပျောက်အောင်ကြိတ်၊ အနိမိတ္တာသာ။

၆၈၆။ အတင့် အတယ်၊ အဖွယ်အရာ၊ မင်္ဂလာ, သုဘ၊ သုခ, ဣဋ္ဌ၊ ထင်သမျှ၊ မှတ်ကြ ပဏိဟိတာ။

၆၈၇။ အကုန် ပဏိဟိ၊ ပျောက်စေဘိ၊ အပ္ပဏိဟိတာ။

၆၈၈။ နတ်, လူ, ဗြဟ္မာ၊ ငါ, သူတပါး၊ ယောကျ်ား မိန်းမ၊ ပုဂ္ဂလနှင့်၊ စိုးရပိုင်နိုင်၊ ခံ့ခိုင်မြင့်ရှည်၊ သက်ဆုံးတည်ဟု၊ အားစည်သမျှ၊ အနန္တ၊ အတ္တ, ဇီဝ, သာ။

၆၈၉။ အတ္တ, ဇီဝေ၊ ပျောက်ကင်းစေ၊ မှတ်လေ သုညတာ။

၆၉၀။ သူ့တံခါးမှ၊ ပေါက်ရောက်က၊ မောက္ခ သူ့မင်္ဂသာ။

ပိုဒ်ပေါင်းရှစ်ဆယ်၊ လင်္ကာခြယ်၊ ဤဝယ် ကမ္မဋ္ဌာန်းပြီး။

ကမ္မဋ္ဌာန်းပိုင်း ပြီး၏။

---------

## နိဂုံး

၁။ ခြောက်ရာ့ခြောက်ဆယ်၊ လင်္ကာခြယ်၊ ဤဝယ် ပြီး

ကာဗျာ။

၂။ အင်္ဂ, သုဥ်, ဒွိ, ကေ်၊ သက္ကရာဇ်၊ ဖွါးလစ် ကျမ်း ဆရာ[၁]။

၃။ မုံ့ရွာလယ်တီ၊ တောရပ်မှီ၊ မထေရ် ဉာဏ်ဓဇာ။

၄။ ဗျည်း, ဆ, ဒွိ, ဧ၊ ကဆုန်နွေ၊ ပြီးပြေ ဤကျမ်းစာ[၂]။

၅။ ပရမတ်သံခိပ်၊ ဘွဲ့တံဆိပ်၊ ခပ်နှိပ် မည်သညာ။

၆။ ပိဋကာ နှစ်ပုံ၊ အကျဉ်းချုံ၊ နှုတ်ငုံ သူတို့မှာ။

၇။ ပညာမိကာ၊ ဆုကြီးရ၊ အများ ကိုးကွယ်ရာ။

၈။ ကျမ်းပြုပါရ၊ ဤပုညကြောင့်၊ ဒုက္ခခပ်သိမ်း၊ ငြိမ်းစေ ခလို၊ ဆုပန်ဆို၊ ဗိုလ်လူ သတ္တဝါ။

၉။ အနာမျိုးကင်း၊ မိုးမင်း သည်းထန်၊ နိုင်ငံခပ်သိမ်း၊ တရားထိန်း၊ ငြိမ်းစေ အဖြာဖြာ။

၁၀။ ရှစ်သောင်းလေးထောင်၊ တရားရောင်လည်း၊ မိုက် မှောင်ပယ်ဖွင်း ထိန်ထိန်ရွှန်း၊ ထွန်းစေ သာသနာ။

ပရမတ္ထသံခိပ် သံပေါက်ပြီး၏။

---

ပရမတ္ထသံခိပ်ကျမ်း ပြီး၏။

---

၁။ ၁၂၀၈-ခုနှစ် နတ်တော်လဆန်း ၁၃-ရက် အင်္ဂါနေ့ (ဆရာတော် ၏ ဖွားသက္ကရာဇ်)

၂။ ၁၂၆၅-ခုနှစ် ကဆုန်လအတွင်း ပရမတ္ထသံခိပ်ကျမ်း ရေးပြီးသည်။